ဟာဇရသ် မော်လာနာ မိုဟမ္မဒ် ဝါသွေ့ဟ် နဒ်ဝီ (﵀) သခင်

ရေးသားပြုစုအပ်သော

# ပါလက်စတိုင်းအရေး



## နယ်ချဲ့တို့နှင့်အစ္စလာမ့်ကမ္ဘာ



ဘာသာပြန်ဆိုသူ နူရုလ္လာဟ် ယူနွတ်စ် (နဒ်ဝီ)

# ပါလက်စတိုင်းအရေး၊

# နယ်ချဲ့တို့နှင့်အစ္စလာမ့်ကမ္ဘာ

မောင်လာနာ စိုင်ယစ်ဒ် ဝါဿွ့ဟ် ရရှီးဒ် ဟစနီ နဒ်ဝီ

ပြန်ဆိုသူ

နူရုလ္လာဟ် ယူနွတ်စ်

| | |
|---|---|
| စာအုပ်အမည် | **“ပါလက်စတိုင်းအရေး၊ နယ်ချဲ့တို့နှင့်အစ္စလာမ့်ကမ္ဘာ”** |
| မူရင်းရေးသားသူ | “မောင်လာနာ စိုင်ယစ်ဒ် ဝါသေဲ့ဟ်ရရှီးဒ် ဟာစနီနဒ်ဝီ” |
| ဘာသာပြန်ဆိုသူ | နူရုလ္လာဟ် ယူနွတ်စ် |
| စာမျက်နှာ | ၆၀ |
| ကွန်ပျူတာ Layout | မိုဟာမ္မဒ် အိုင်နွတ်ဒီးန် CHK |
| မျက်နှာဖုံး ဒီဇိုင်း | အဗ်ဒွလ်ဂနီ Nadwi Mazahiri |
| ပုံနှိပ်တိုက် | ဟာရမိုင်းန်စာပေ MANDALAY |
| ဖြန့်ချိသူ | ဟာရမိုင်းန်စာပေ 09 444425960 |
| ရက်စွဲ | နိုဝင်ဘာလ၊ ၂၀၂၂ ခုနှစ် |

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيمِ

# ပြန်ဆိုသူ၏အမှာစာ

လူ့ဗီဇအရ အင်အားဆိုသည်မှာ စိတ်ခံစားမှုမှပေါက်ဖွားလာခြင်းဖြစ်သည်။ ထိုစိတ်ခံစားမှုသည်မှာလည်း အသိတည်းဟူသော မျိုးစေ့မှ ရှင်သန်ကြီးထွားလာသောအရာဖြစ်သည်။ ထို့ကြောင့် အသိတည်းဟူသောအလင်းတရားသည် လူသားတို့အတွက် အရေးပါအရာရောက်သော အခြေခံအုတ်မြစ်ဖြစ်သည်။ အစ္စလာမ်သာသနာတော်တွင် တတိယအထွတ်မြတ်ဆုံး ဗလီဝတ်ကျောင်းတော်မှာ ဖလစ်သ္တီးန် (ခေါ်) ပါလက်စတိုင်းဒေသတွင် ရှိကြောင်း မွတ်စ်လင်မ်တိုင်းလိုလို သိရှိကြသည်။ သို့သော် ၎င်းဗလီဝတ်ကျောင်းတော်၏ သမိုင်းအချိုးအကွေ့များကို သိရှိသူနည်းပါးလှသည်။

အထူးသဖြင့် ပထမကမ္ဘာစစ်ကြီးပြီးသည့်နောက် ဥရောပအရင်းရှင်နိုင်ငံတို့၏ လက်အောက်ကျရောက်ခဲ့ပုံ၊ ၎င်းနောက် ပါလက်စတိုင်းသို့ ရဟူဒီတို့ကိုခေါ်သွင်းခဲ့ပုံ၊ တဖြည်းဖြည်း ယင်းဒေသကို ရဟူဒီတို့ဝါးမြိုသွားပုံ၊ ဒေသခံပါလက်စတိုင်းမွတ်စ်လင်မ်တို့အား ဒုက္ခအမျိုးမျိုးပေးပြီး ၎င်းတို့၏မွေးရပ်မြေမှ မောင်းထုတ်ခဲ့ပုံ၊ အနောက်နိုင်ငံတို့၏ ကူညီဖေးမမှု ရဟူဒီတို့ စဉ်ဆက်မပြတ်ရရှိနေမှုကြောင့် အိမ်နီးချင်း အရဗ်နိုင်ငံတို့အပေါ် ဗိုလ်ကျအနိုင်ကျင့်ပုံ၊ “အက်ဆွာ”ဗလီကိုရှဟီးဒ်ပြုပြီး ဟိုင်ကလ်ဆိုလိုင်မာနီတည်ဆောက်ရန် အမျိုးအမျိုးကြံစည်နေပုံ စသည့်အဖြစ်အပျက်များ၏ သမိုင်းအဖြစ်အမှန်များကို ကျွန်တော်တို့ မြန်မာမွတ်စ်လင်မ်အများစုသည် မသိရှိကြပေ။

ထို့ကြောင့် ပါလက်စတိုင်းအရေးသည် မိမိတို့နှင့်မဆိုင်ဟု သဘောထားကြသည်။ အမှန်မှာ ပါလက်စတိုင်းဒေသရှိ အက်ဆွာဗလီအရေးသည်

ကျွန်တော်တို့ အီမာန်ယုံကြည်မှုဆိုင်ရာ အစိတ်အပိုင်းများထဲမှ တစ်ခုဖြစ်သည်။ ထို့ကြောင့် ပထမဦးစွာ ပါလက်စတိုင်းအရေးကို သိရှိနားလည်ထားရန်လိုအပ်သည်။ သို့မှသာ ၎င်းနှင့်ပတ်သက်သည့်ခံစားချက်များ ဖြစ်ပေါ်နိုးကြားလာမည်ဖြစ်ပြီး အက်ဆွာကျောင်းတော်ကြီး ရဟူဒီတို့၏လက်ချက်ဖြင့် ပျက်စီးခြင်းမှ ထိန်းသိမ်းကာကွယ်ရန် မိမိတို့တတ်နိုင်သည့်အခန်းကဏ္ဍမှ ပါဝင်ဆောင်ရွက်နိုင်ကြမည်ဖြစ်သည်။ ထိုအချက်များကို ရှေးရှုပြီး ကျွန်တော်အနေဖြင့် မိမိ၏ဆရာသခင်ဖြစ်သော "ဟဇရသ် မောင်လာနာ စိုင်ယစ်ဒ်ဝါသေ့ဟ် ရရှီးဒ် ဟစနီ နဒ်ဝီ" ရေးသားပြီး အိန္ဒိယနိုင်ငံ ဘဟ်တ်ကလ်ဒေသရှိ "ဟစန္ဒလ်ဘန္နာရှဟီးဒ်အကယ်ဒမီ"မှ မိမိ၏အလ်အခ်ဘာရ်စာစောင်တွင် ဖော်ပြခဲ့သည့် "ပါလက်စတိုင်းအရေး၊နယ်ချဲ့တို့နှင့်အစ္စလာမ့်ကမ္ဘာ" ဟူသောအကြောင်းအရာများ စုစည်းထားသည့် စာအုပ်ငယ်ကို မြန်မာမွတ်စ်လင်မ်များ အကျိုးရယူခံစားနိုင်ကြရန် ရည်သန်ပြီး မြန်မာဘာသာသို့ ပြန်ဆိုရေးသားခဲ့ခြင်းဖြစ်ပါသည်။

ဤစာအုပ်ငယ်သည် လက်ရှိပါလက်စတိုင်း-အစ္စရေး ပဋိပက္ခကိုနားလည်သဘောပေါက်စေရန် အတိုင်းအတာတစ်ခုအထိ အထောက်အကူဖြစ်စေလိမ့်မည်ဟုလည်း ယုံကြည်ပါသည်။ ဤစာအုပ်ငယ်ဖြစ်မြောက်ရေးအတွက် အဖက်ဖက်မှ ကူညီပံ့ပိုးပေးခဲ့ကြသော သာသနာ့ညီနောင်မိတ်ဆွေများကို အထူးကျေးဇူးတင်ပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။ အို-အသျှင်၊ ကျွန်တော်နှင့် ညီနောင်မိတ်ဆွေများ၏ မပြေပလောက်သော ဤကြိုးပမ်းမှုကို အာခိရသ်အောင်မြင်မှုအတွက် အကြောင်းခံတစ်ခုအဖြစ် လက်ခံတော်မူပြီး စာရှုသူအပေါင်းအားလည်း အကျိုးဖြစ်ထွန်းမှုပေးသနားတော်မူပါ။ အာမီးန်။

## မူရင်းထုတ်ဝေသူ၏အမှာစာ

ပါလက်စတိုင်းအရေးသည် မည်သည့်အရေးဖြစ်ပြီး မည်သို့ဖြစ်ပျက်ခဲ့သနည်း။ အဘယ်အတွက်ကြောင့် ၎င်းအရေးသည် ဤမျှအရေးကြီးသနည်း။ သဘာဝသယံဇာတများ မရှိသော ဤမြေကို အဘယ်ကြောင့် နယ်ချဲ့တို့ အလွန်စိတ်ဝင်စားကြသနည်း။ ဤမြေ၌ ရဟူဒီတို့၏ခြေ အဘယ်ကဲ့သို့ အခြေခိုင်သွားခဲ့ပြီး ၎င်းတို့၏ဩဇာအရှိန်အဝါ မည်သို့ကြီးထွားလာသနည်း။ ခရစ်ယာန်တို့သည် ၎င်းတို့အား မည်သည့်အတွက်ကြောင့် ကူညီဖေးမကြသနည်း။ အီစာသခင်နှင့် မယ်တော်မရ်ယမ်သခင်မကို စော်ကားမော်ကား ပြောကြသော ရဟူဒီတို့နှင့် အဘယ်ကြောင့် ခရစ်ယာန်တို့ ပေါင်းဖက်ကြသနည်း။ အရဗ်ခေါင်းဆောင်တို့ မည်သို့မည်ပုံ ပျော့ညံ့ခဲ့ကြသနည်း။ ရဟူဒီတို့ကို ထိပ်တိုက်ရင်ဆိုင်ခြင်းမှ အဘယ်ကြောင့်ရှောင်ပြေးခဲ့ကြသနည်း။ မွတ်စ်လင်မ် စစ်သည်တော်များကို မည်သူတို့က ရှေ့သို့ချီတက်ခြင်းမှ တားဆီးခဲ့သနည်း။

စစ်မြေပြင်မှ ဆုတ်ခွာရန်မည်သူတို့က ဖိအားပေးခဲ့ကြသနည်း။ နဗီတမန်တော်များ၏ မြင့်မြတ်လှသောမြေကို မည်သူတို့က လက်ဆောင်အဖြစ် ရဟူဒီတို့ကို ပေးအပ်ခဲ့သနည်း။ ၎င်းကိစ္စတွင် နောက်ကွယ်မှ မည်သူ၏လက်ချက်ပါဝင်သနည်း။ မလွှဲမရှောင်သာ ဖြစ်စေခဲ့သောကိစ္စသည် မည်သည့်အရာနည်း။ ၎င်းတို့၏ မခံချင်စိတ် ဘယ်သို့ရောက်သွားခဲ့သနည်း။ အစ္စရေးသည် အမှန်တကယ် အင်အားတောင့်တင်းသော နိုင်ငံဖြစ်ပါသလား။ အရဗ်ကမ္ဘာသည် ဤမျှလောက်ချိနဲ့နေပါသလား။ အရဗ်အမျိုးသားရေးကို အဘယ်ကြောင့် ကြွေးကြော်ခဲ့ကြသနည်း။ မြင့်မြတ်လှသော ထိုမြေနှင့် အရဗ်မဟုတ်သော မွတ်စ်လင်မ်များကို အဘယ်ကြောင့် အဆက်အသွယ်ပြတ်စေခဲ့သနည်း။

ပါလက်စတိုင်းတို့ကို မိမိတို့မြို့၊ ရွာများမှ အဘယ်ကြောင့် စွန့်ခွာ ထွက်ပြေးစေခဲ့သနည်း။ အိမ်နီးချင်းတိုင်းပြည်တို့သည် အဘယ်အတွက်ကြောင့် လှိုက်လှိုက်လှဲလှဲ ထိုဒုက္ခသည်တို့ကို လက်ခံခဲ့ကြသနည်း။

အထက်ဖော်ပြပါမေးခွန်းတို့သည် အသင်စာရှုသူ၏ခေါင်းထဲတွင် ပေါ်ပေါက်နေပေလိမ့်မည်။ မပေါ်ပေါက်စရာအကြောင်းလည်းမရှိပေ။ အဘယ်ကြောင့်ဆိုသော် ထိုမြေသည် အသင်ယုံကြည်လက်ခံထားသော နဗီတမန်တော်များ ပွင့်ပေါ်ခဲ့သော မြင့်မြတ်လှသည့် မြေဖြစ်သည်။ ထိုမြေ၌ နဗီတမန်တော်များသည် သောင်ဟီးဒ်၏အလံတော်ကို လွှင့်ထူခဲ့ကြသည်။ ထိုအလံသည် ယခုအသင့်လက်ဝယ်၌ရှိသည်။ မူစာနဗီ သတင်းကောင်းပေးခဲ့သော နောက်ဆုံးပွင့်ပေါ်တော်မူသည့် နဗီ၏မွန်မြတ်လှသည့် နောက်လိုက်ခွင့်ကို အသင်ရရှိထားသည်။ ထိုမြေ၌ရှိသည့် အက်ဆွာဗလီကြီးသည် ယနေ့ခေတ်တွင် အမျိုးမျိုးစော်ကားခြင်းခံနေရသည်။ ထိုဗလီရှိရာဘက်သို့ မျက်နှာမူ၍ နှစ်ဘဝခေါင်းဆောင်ရှင် တမန်တော်မြတ်ﷺသည် ၁၆လ တိုင်တိုင် နမားဇ်ဝတ်ပြုတော်မူခဲ့သည်။ ကိုယ်တော်မြတ်ﷺသခင် မေအ်ရားဂျ်ကောင်းကင်ခရီးသို့ ဤနေရာမှ ကြွမြန်းတော်မူခဲ့သည်။ ဤနေရာ၌ပင် နဗီအပေါင်းကို ဦးဆောင်ဦးရွက်ပြုပြီး ကိုယ်တော်သခင်ﷺ နမားဇ်ဝတ်ပြုတော်မူခဲ့သည်။ နမားဇ်တစ်ကြိမ်ဝတ်ပြုလျှင် နမားဇ်ပေါင်း ၅ သောင်းဝတ်ပြုသည့် စဝါးဗ်ရသော ဤကျောင်းတော်သည် အစ္စလာမ်သာသနာတွင် တတိယအထွတ်မြတ်ဆုံး ဝတ်ကျောင်းတော်လည်းဖြစ်သည်။

အသျှင်မြတ်အမိန့်ကို ဖီဆန်၍ နဗီတမန်တော်များကို မတရားသတ်ဖြတ်ခဲ့ပြီး နောက်ဆုံးနဗီကို ငြင်းဆန်သောသူများ၏လက်ဝယ် ထိုမြင့်မြတ်

သောနယ်မြေကို ပေးအပ်ရန် အသင့်သဘောတူပါသလား။ အကယ်၍ သဘော မတူပါက ပထမဦးစွာ ထိုအရေးကို သေချာစွာနားလည်ထားရန်လိုအပ်သည်။ ထို့နောက် ၎င်းအတွက် အသင့်တတ်နိုင်သည်ကို ပြုလုပ်သင့်သည်။ စာမျက်နှာ အနည်းငယ်အတွင်း အတိုချုံးဖော်ပြထားသော ဤစာအုပ်ငယ်သည် အလွန်တို တောင်းလှသောအချိန်အတွင်း အရေးကြီး၍ ရှုပ်ထွေးနက်နဲလှပြီး ထိလွယ် လျှလွယ်သော ပါလက်စတိုင်းအရေးကို အတိုင်းအတာတစ်ခုအထိ အသင့်အား သိခွင့်ပေးလိမ့်မည်။

ထို့ပြင် လူအများစုမသိသေးသည့် ၎င်း၏အခြားရှုထောင့်များကိုလည်း အသင့်ကိုပြောပြလိမ့်မည်။ မိမိတို့ဌာနအနေဖြင့် "နဒ်ဝါသွလ်အိုလမာ" ကျောင်းတော်ကြီး၏ ကုရ်အာန်သဖ်စီးရ်နှင့် အရဗီစာပေသင်ကြားရေးဆရာ တစ်ပါးဖြစ်သော မိတ်ဆွေကြီး မောင်လာနာဝဆီးက်နဒ်ဝီအား အထူး ကျေးဇူး တင်ကြောင်းမှတ်တမ်းတင်အပ်ပါသည်။ ဆရာသခင်၏ ကြိုးပမ်းဆောင်ရွက် ပေးမှုကြောင့် ဤစာအုပ်ငယ်သည် ထုတ်ဝေရေးအဆင့်အမျိုးမျိုးကို ဖြတ် ကျော်ပြီး အသင့်လက်ဝယ်သို့ ရောက်ရှိလာခြင်းဖြစ်သည်။

**ဂျအ်ဖရ် မဆ်အူးဒ် ဟာစနီ နဒ်ဝီ**

## နယ်ချဲ့တို့နှင့်အစ္စလာမ့်ကမ္ဘာ

### နယ်ချဲ့စီမံကိန်းနှင့်ကမ္ဘာလုံးဆိုင်ရာဇီယွန်ဝါဒ

၁၉ရာစု နှောင်းပိုင်းကာလများတွင် ဥရောပအရင်းရှင်နိုင်ငံများသည် အရေဗျကျွန်းဆွယ်ဒေသ(ပဟေဂျားဇ်နယ်)၊ အေရားက်(အီရတ်)နိုင်ငံနှင့် ဆီးရီးယားနိုင်ငံတို့အား ကျူးကျော်သိမ်းပိုက်ရေး စီမံချက်များကို ရေးဆွဲခဲ့သည်။ ထိုစီမံကိန်းများသည် အရဗ်ကမ္ဘာ၏ အနာဂတ်နိုင်ငံရေးအခြေအနေ များပေါ်တွင် ကာလရှည်ကြာ အကျိုးသက်ရောက်မှု ဖြစ်စေခဲ့သည်။ ထိုစီမံကိန်းများ ရေးဆွဲရာနှင့် အကောင်အထည်ဖော်ရာတွင် ထိုအချိန်က ဥရောပ၏ အင်အားကြီး နှစ်နိုင်ငံဖြစ်သော အင်္ဂလန်နှင့်ပြင်သစ်တို့ ဦးဆောင်ခဲ့ပြီး မကြာခင် ရုရှားနှင့် ဂျာမနီ၊ နောက်ဆုံးတွင် အမေရိကန်ပြည်ထောင်စုလည်း ပူးပေါင်းလာခဲ့သည်။ အနောက်တိုင်း၏ နယ်ချဲ့စီမံကိန်းကို အကောင်အထည်ဖော်ရာတွင် ကမ္ဘာလုံးဆိုင်ရာ ဇီယွန်ဝါဒသည် အဓိကအရေးပါသော အခန်းကဏ္ဍမှ ပါဝင်ခဲ့သည်။ ထိုဝါဒသည်နိုင်ငံရေး၊ ဘာသာရေးနှင့် လူသားချင်းစာနာ ထောက်ထားရေး အပေါ်အခြေခံပြီး ရဟူဒီ(ဂျူး)လူမျိုးတို့အား ကိုယ်ချင်းစာနာ ထောက်ထားစိတ် ကူညီရိုင်းပင်းစိတ် ဖြစ်ပေါ်လာစေရန် စေ့ဆော်နိုင်ခဲ့သည်။

ထို့ကြောင့်ပင် ဥရောပအစိုးရများသည် မိမိတို့နိုင်ငံရှိ ရဟူဒီ(ဂျူး)များကို ၎င်းတို့ဆန္ဒရှိရာ ပါလက်စတိုင်း(ဖလစ်သ္ခီန်း)ဒေသသို့ အားတက်သရော ပို့ဆောင်ပေးခဲ့ရုံမက ပါလက်စတိုင်းဒေသတွင် အခြေချနေထိုင်နိုင်စေရန် လိုအပ်သော အကူအညီများ၊ ပံ့ပိုးမှုများကို ဘက်ပေါင်းစုံမှပြုလုပ် ပေးခဲ့ကြသည်။ ပထမကမ္ဘာစစ်(၁၉၁၄-၁၉၁၈)ပြီးနောက် ပါလက်စတိုင်းဒေသတွင် အော်တိုမန်(အွစ်မာနီ)တို့၏ အုပ်ချုပ်မှုအဆုံးသတ်သွားသည့်အခါ အနောက်တိုင်း အစိုးရတို့သည် ပါလက်စတိုင်းဒေသရှိ မိမိတို့၏သံရုံးများ၊ ကောင်စစ်ဝန်ရုံးများရှိ

သံတမန်များ၏အကူအညီဖြင့် ပါလက်စတိုင်း အရဗ်မွတ်စ်လင်မ်တို့၏မြေယာ များကို ဝယ်ယူကာ ရဟူဒီများ လက်ဝယ်လွှဲပြောင်း ပေးအပ်ခဲ့ကြသည်။

## တူရကီတို့၏ကြွင်းကျန်သောအမွေကို ခွဲဝေယူကြရန် ကြံစည်ကြခြင်း

ပထမကမ္ဘာစစ်တွင်ပါဝင်မှုနှင့် ဂျာမနီဘက်မှ ဝင်ရောက်ကူညီ တိုက်ခိုက်ပေးမှု၏ဆိုးကျိုးကို တူရကီအွတ်စ်မာနီ တို့ခံရလေသည်။ စစ်မတိုင်ခင်ကတည်းကပင် ဥရောပ၏ မမာမကျန်းသော လူနာကြီးဟု လှောင်ပြောင် ခေါ်ဝေါ်ခြင်းခံရပြီး စီးပွားရေး၊ နိုင်ငံရေးအကျပ်အတည်းများနှင့် ရင်ဆိုင်နေခဲ့ရသော တူရကီတို့သည် ပို၍ချည့်နဲ့လာခဲ့သည်။ ထိုကဲ့သို့ တူရကီတို့၏ အင်အားချည့်နဲ့နေမှုကို ဥရောပရှိ ခရစ်ယာန်တိုင်းပြည်တို့သည် အခွင့်ကောင်းအဖြစ်မှတ်ယူပြီး တူရကီသိမ်းပိုက်ခံနယ်မြေများတွင် ဒေသခံတို့အား ပုန်ကန်ထကြွစေကာ ၎င်းနယ်မြေတို့ကို မိမိတို့ပိုင်အဖြစ် သိမ်းယူရန်အခွင့်အလမ်းများ ဖန်တီးလျက်ရှိနေကြသည်။ ထိုခရစ်ယာန်တိုင်းပြည်တို့သည် ယခင်က ဥရောပတစ်ခွင် တိုက်ပွဲများတွင် တူရကီတို့အား အကြိမ်ကြိမ်စစ်ရှုံးပြီးသေးသိမ်မှုကို ရင်ဝယ်ပိုက်ခဲ့ရသောကြောင့် တူရကီတို့အား အခဲမကြေခဲ့ပေ။ တူရကီပိုင်နက်နယ်မြေများအား ခွဲဝေယူရေး အစီအစဉ်ကို ထိုနိုင်ငံတို့ ရေးဆွဲခဲ့ကြသည်။

ထိုအစီအစဉ်များကို ဗြိတိသျှ သတင်းစာ တစ်စောင်ကဖော်ပြခဲ့သည်။ ကနဦး ခွဲဝေရေးအစီအစဉ်တွင် ရုရှား၊ဗြိတိန်နှင့် ပြင်သစ်တို့ပါဝင်ကြသည်။ တူရကီအား ရှုံးကြွေးဆပ်ရန် ဤအချိန်သည် အကောင်းဆုံးဟု သတ်မှတ်ကာ လျှို့ဝှက်တွေ့ဆုံ ဆွေးနွေးမှုများပြုလုပ်ကြသည်။ ကမ္ဘာစစ်ကြီး ပြီးသည့်နောက် ဖြစ်ပေါ်လာမည့် အခြေအနေအရပ်ရပ်ကို ကိုင်တွယ်ဆောင်ရွက်ရန် အပြန်အလှန် ကတိစာချုပ်များ ချုပ်ဆိုခဲ့သည်။ ထိုအချိန်တွင် ကမ္ဘာလုံးဆိုင်ရာ

ဂျူးအဖွဲ့အစည်းသည် အခြေစိုက်ရာနေရာမရရှိသေးဘဲ ၎င်း၏ ခေါင်းဆောင်သည် ဂျာမနီ၌ ပိတ်မိလျက်ရှိနေသည်။ သို့သော် ဗြိတိန်တွင် (WEIZMANN) ဆိုသူ ဂျူးခေါင်းဆောင်တစ်ယောက်သည် မိမိဩဇာ အရှိန်အဝါကို အသုံးချပြီး ပြန့်ကျဲနေသော ဂျူးအဖွဲ့အစည်းအား ပြန်လည်စုစည်းကာ ခိုင်မာသော ဦးဆောင်မှုကို ပေးခဲ့သည်။

## ဗြိတိသျှတို့၏ လျှို့ဝှက်အကြံအစည်

ဗြိတိသျှတို့သည် မတူညီသောနည်းလမ်း သုံးသွယ်ဖြင့် ရှာမ် (ဆီးရီးယား)နှင့် အေရားက်(အီရတ်)နိုင်ငံတို့တွင် မိမိတို့၏ဩဇာအာဏာကို ထားရှိရန် စီစဉ်လျက်ရှိခဲ့သည်။ ထို့ထဲမှ ပထမနည်းလမ်းမှာ အော်တိုမန်အင်ပါယာ (အွတ်စ်မာနီ) လက်အောက်ရှိ ဟေဂျားဇ်နယ်ခေါင်းဆောင် ရှရီးဖ်ဟိုစိုင်းန်ဘင်အလီအား သွေးထိုးလှုံ့ဆော်ပြီး အော်တိုမန်တို့အား ပုန်ကန်စေခြင်းဖြစ်သည်။ ၎င်းပုန်ကန်မှု၏အစားအဖြစ် အော်တိုမန်တို့ လက်အောက်ရှိ ဟေဂျားဇ်နယ်၊ ဆီးရီးယားနှင့် အီရတ်နယ်မြေအများစုကို ၎င်းအားအုပ်ချုပ်ခွင့် အပြည့်အဝပေးမည်ဟု မက်လုံးပေးသည်။ သို့သော် ဗြိတိသျှတို့သည် လူလည်ကျပြီး ရှရီးဖ်ဟိုစိုင်းန်အား ပထမဦးစွာ အော်တိုမန်တို့အား ပုန်ကန်ကြောင်း ကြေညာပေးရမည်။ ကျန်ကိစ္စရပ်ဖြစ်သော နယ်မြေပေးမှုကို အော်တိုမန်တို့အား ဟေဂျားဇ်နယ်မှ တိုက်ထုတ်ပြီးနောက်မှသာ ဆွေးနွေးညှိနှိုင်းပြီး နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် ဆုံးဖြတ်ကြမည်ဟု ပြောဆိုလေသည်။ ရှရီးဖ်ဟိုစိုင်းန်လည်း ၎င်းတို့၏ပရိယာယ်ကို မရိပ်မိဘဲ ဗြိတိသျှတို့၏ ကမ်းလှမ်းချက်ကို အဟုတ်ကြီးထင်ကာ ၎င်းတို့၏အဆိုပြုချက်ကို လက်ခံပါသည်ဟု အကြောင်းပြန်

လိုက်လေသည်။ ဤသို့ဖြင့် နှစ်ဦးနှစ်ဖက်သဘောတူညီကာ ၁၉၁၆ ဇွန်လ ၁၀ ရက်နေ့တွင် ဟေဂျားဇ်နယ်၌ အော်တိုမန်တို့အားပုန်ကန်ကြောင်း၊ ဗြိတိသျှတို့နှင့် မဟာမိတ်ဖွဲ့ကြောင်း ရှရီးဖ်ဟုဆိုင်းန်က ပေါ်ပေါ်တင်တင် ကြေငြာခဲ့သည်။

## Sykes-Picot( Agreement)သဘောတူစာချုပ်

အခြားတစ်ဖက်တွင် ဗြိတိသျှတို့သည် အေရားက်(အီရတ်)၊ ဆီးရီးယားတို့၏ အနာဂတ်နှင့်ပတ်သက်၍ ပြင်သစ်တို့နှင့် ပြောဆိုဆွေးနွေးသည်။ နောက်ပိုင်း ထိုဆွေးနွေးပွဲတွင် ရုရှားလည်းပါဝင်လာသည်။၁၉၁၆၊မေလတွင် ဗြိတိသျှနှင့် ပြင်သစ်တို့ (Sykes-Picot)သဘောတူစာချုပ် ချုပ်ဆိုသည်။ ထိုစာချုပ်သည် ဂျူးလူမျိုးများကို ပါလက်စတိုင်းဒေသတွင် အခြေချနေထိုင်နိုင်အောင် လမ်းခင်းပေးသည့် အခြေခံအကျဆုံးသော စာချုပ်ဖြစ်ခဲ့သည်။ စာချုပ်ထဲတွင် အေရားက်နယ်မြေအများစု၊ အရှေ့ဂျော်ဒန်၊ ပါလက်စတိုင်းဒေသမှ ဟိုင်ဖာနယ်တို့ကို ဗြိတိသျှအား အုပ်ချုပ်ခွင့်ပေးထားပြီး ပြင်သစ်ကိုမူ လက်ဘနွန်နှင့် ဆီးရီးယားတို့အား ပိုင်ဆိုင်ခွင့်ပေးအပ်ထားသည်။

မွန်မြတ်သောနေရာဖြစ်သည့် ကျန်ပါလက်စတိုင်းနယ်ကို ဥရောပနယ်ချဲ့နိုင်ငံအများစု မျက်စိကျနေကြသောကြောင့် သူပိုင်ကိုယ်ပိုင် အမျိုးမျိုးကြွေးကြော် ကြမည့်ကိစ္စမှ ရှောင်လွှဲနိုင်စေရန် နိုင်ငံတစ်နိုင်ငံတည်းကို အုပ်ချုပ်ခွင့်မပေးဘဲ နိုင်ငံတကာ၏ ကြည့်ရှုထိန်းသိမ်းမှုအောက်တွင် ထားရှိမည်ဟု စာချုပ်ထဲတွင် ဖော်ပြထားသည်။ ဗြိတိသျှသည် ကမ္ဘာစစ်ကြီး ဖြစ်နေချိန်မိမိဘက်မှ အမေရိကန်ပြည်ထောင်စု ပါဝင် လာစေရန် အမေရိကန်ရှိဂျူး အဖွဲ့အစည်း၏ ဩဇာအရှိန်အဝါကို အသုံးချချင်သည်။ ထို့ကြောင့် ပါလက်စတိုင်း

အနာဂတ်အရေးနှင့် စပ်လျဉ်း၍ ကမ္ဘာလုံးဆိုင်ရာ ဂျူးအဖွဲ့အစည်းနှင့် လျှို့ဝှက်ဆွေးနွေးမှုများ ပြုလုပ်ခဲ့သည်။

**ယခုအထိရှင်သန်နေသေးသော ခရူးဆိတ်စစ်ပွဲ၏ ဘီလူးရုပ်သွင်**

ပထမကမ္ဘာစစ်ပြီး၍ အော်တိုမန်အင်ပါယာ ပြိုကွဲသွားသောအခါ ဗြိတိသျှတပ်သားများသည် တူရကီတို့ကို ပုန်ကန်သော အရဗ်စစ်တပ်များ၏ အကူအညီဖြင့် ၁၉၁၇၊ ဒီဇင်ဘာ၁၁ရက်နေ့တွင် ပါလက်စတိုင်းဒေသ၏ မြို့တော်ဖြစ်သော ကွဒ်စ်(ဂျေရုစလင်မ်)မြို့ကို ဝင်ရောက်သိမ်းပိုက်ခဲ့သည်။ ဗြိတိသျှစစ်တပ်၏ ခေါင်းဆောင်သည် ဗိုလ်ချုပ်(Allenby) ဖြစ်ပြီး အရဗ်စစ်တပ်သည် ပထမရှားဟ်ဖိုင်ဆွဲလ်၏ အုပ်ချုပ်မှုအောက်တွင် ရှိခဲ့သည်။ ကွဒ်စ်ကို အောင်မြင်ပြီးနောက် ဗြိတိသျှဗိုလ်ချုပ်က "ခေတ်အဆက်ဆက် ဆင်နွှဲခဲ့သော ခရူးဆိတ်စစ်ပွဲများသည် ယနေ့ ဆုံးခန်းတိုင်ပြီဟု ကြွေးကြော်ပြီး အောင်ပွဲခံလေသည်။ ၁၁ရာစုနှစ်တွင် ဥရောပတိုက်သားခရစ်ယာန်တို့အပေါ် ကြီးစိုးခဲ့သော ခရူးဆိတ်ဘာသာရေးစိတ်ဓာတ်သည် နှစ်ပေါင်း ၈၀၀ ကြာညောင်းပြီးနောက်လည်း ၎င်းတို့ထံတွင် ယခင်တိုင်းရှင်သန်နိုးကြားလျက်ရှိနေသည်ကို ၎င်းဗိုလ်ချုပ်၏စကားရပ်က မီးမောင်းထိုးပြလျက်ရှိသည်။

ထို့အတူ 9/11 အဖြစ်အပျက်တွင် ထိုအချိန်က အမေရိကန်သမ္မတ ဂျော့ဂျ်ဒဗလျူဘုရှ် နှုတ်မှ သတိမမူမိဘဲ ရုတ်တရက် စိတ်ခံစားမှုဖြင့် ထွက်ပေါ်လာသော စကားရပ်သည်လည်း ခရစ်ယာန်ကမ္ဘာတွင် ခရူးဆိတ်စစ်ပွဲများ၏ အရိပ်မည်းကြီးသည် ယခုအထိ ရှင်သန်နေသေးကြောင်း ထင်ဟပ်ဖော်ပြလျက်ရှိသည်။ ပြင်သစ်ဘုရင် လူဝီ(၉)သည် ၁၂၇၀ ခုနှစ် မိမိ ကွယ်လွန်ခါနီး အချိန်တွင် သေတမ်းစာတစ်စောင် ရေးခိုင်းခဲ့သည်။ ထိုသေတမ်းစာထဲတွင်

အရပ်မွတ်စ်လင်မ်တို့၏ စည်းလုံးညီညွတ်မှုကို ဟန့်တားနိုင်ပြီး အချင်းချင်း အကွဲကွဲအပြဲပြဲဖြစ်အောင် စွမ်းဆောင်နိုင်မည့် အစိုးရတစ်ရပ် ၎င်းတို့ကြား တည်ထောင်ရန်မှာ ကြားချက်လည်း ပါဝင်ခဲ့သည်။



**ဗိုလ်ချုပ်အလန်ဘီ ဂျေရုစလင်မ်မြို့ (ကွဒ်စ်) သို့ဝင်ရောက်လာပုံ**

## “Balfour” ကြေငြာစာတမ်း

အော်တိုမန်တို့၏ ကိုယ်စားလှယ်သည် ဗြိတိသျှဗိုလ်ချုပ်အလန်ဘီအား ပါလက်စတိုင်းမြို့တော် “ကွဒ်စ်”ကို လွှဲပြောင်းမပေးမီ ထိုစဉ်က ဗြိတိသျှ နိုင်ငံခြားရေးဝန်ကြီး “Balfour” သည် ဂျူးအဖွဲ့အစည်း ကိုယ်စားလှယ် Lord-Rothschild အတွက် ဗြိတိသျှအစိုးရ၏ နိုင်ငံရေးကြေညာချက်တစ်စောင်

ထုတ်ပြန်ပေးခဲ့သည်။ ထိုကြေညာချက်သည် ဘဲလ်ဖိုးကြေညာစာတမ်းဟူ၍ ထင်ပေါ်ကျော်ကြားသည်။ စာတမ်းထဲတွင် "ဗြိတိသျှဘုရင့် နိုင်ငံတော်ကြီး သည် စာနာထောက်ထားမှု၊ တာဝန်ယူမှု အပြည့်အဝဖြင့် ပါလက်စတိုင်း ဒေသတွင် ဂျူးနိုင်ငံတော်ထူထောင်ပေးရေးကို စဉ်းစားသုံးသပ်လျက်ရှိနေ သည်ဟု အတိအလင်းဖော်ပြထားသည်။ ထို့ပြင် ဗြိတိသျှအစိုးရသည် ထိုမျှော် မှန်းချက် အကောင်အထည်ပေါ်လာရန် ကိုယ်စွမ်းဉာဏ်စွမ်းရှိသရွေ့ ကြိုးပမ်း ဆောင်ရွက်မည်ဟု ထပ်မံဖော်ပြထားသည်။ ထိုကြေညာချက်စာတမ်းထွက် သောအချိန်တွင် ပါလက်စတိုင်းဒေသသည် ဗြိတိသျှတို့၏ လက်အောက် မရောက်သေးပေ။

## ပါလက်စတိုင်းကို ဗြိတိသျှတို့ သိမ်းပိုက်ခြင်း

၁၉၁၈ စက်တင်ဘာတွင် ဗြိတိသျှစစ်တပ်သည် ပါလက်စတိုင်း မြောက်ပိုင်းအား သိမ်းယူသည်။ ၎င်းနောက် အောက်တိုဘာလတွင် အရှေ့ ဂျော်ဒန်၊ ဆီးရီးယားနှင့် လက်ဘနွန်တို့ကို ထပ်မံ သိမ်းပိုက်သည်။ ထိုအချိန် မှစ၍ ဗြိတိသျှသည် ပါလက်စ်တိုင်းနယ်ကို ရဟူဒီ(ဂျူး)တို့အား စနစ်တကျ လက်တွေ့ လွှဲပြောင်းပေးမှု စတင်ပြုလုပ်သည်။ ထို့အတူ ဗြိတိသျှတို့သည် (Sykes-Picot) သဘောတူညီချက်တွင် ပါဝင်သည့် "ပါလက်စတိုင်းနယ်ကို နိုင်ငံတကာ စောင့်ကြည့်ထိန်းသိမ်းမှု အောက်တွင်ထားမည်"ဆိုသည့် သဘော တူညီချက်ကို စွန့်လွှတ်စေရန် ပြင်သစ်ကို တိုက်တွန်းဖျောင်းဖျနိုင်ခဲ့သည်။

၁၉၂၀၊ ဇန်နဝါရီ၁၀ရက်နေ့တွင် ဗြိတိသျှနှင့် အပေါင်းအပါအင်အားကြီး မဟာ မိတ်နိုင်ငံများ၏သဘောတူညီချက်ဖြင့် ပါလက်စတိုင်းနယ်ကို ဗြိတိသျှ

အစောင့်အရှောက်ခံနယ်အဖြစ်သတ်မှတ်ခဲ့သည်။ ၁၉၂၂ စက်တင်ဘာတွင် ကုလသမဂ္ဂအဖွဲ့ကြီးကလည်း ထိုဆုံးဖြတ်ချက်ကို ထပ်လောင်း အတည်ပြုခဲ့သည်။

## ဗြိတိသျှ၏ပါလက်စတိုင်းဒေသတွင်း ဆောင်ရွက်ချက်များ

ဘဲလ်ဖိုးကြေညာစာတမ်းကို အကောင်အထည်ဖော်သည့်အနေဖြင့် ဗြိတိသျှတို့သည် မိမိတို့၏ပါလက်စတိုင်းဒေသ နှစ်(၃၀)ကြာ အုပ်ချုပ်မှု သက်တမ်းအတွင်း ကမ္ဘာ့အနှံ့မှ ရဟူဒီဂျူးတို့ ပါလက်စတိုင်းတွင် ပြောင်းရွှေ့ဝင်ရောက်လာနိုင်စေရန် တံခါးအားလုံး ဖွင့်ထားပေးခဲ့သည်။ ရွှေ့ပြောင်းအခြေချရဟူဒီများကို အစွမ်းကုန် ကူညီထောက်ပံ့ပေးခဲ့သည်။ ထို့ကြောင့် ၁၉၁၅ တွင် ပါလက်စတိုင်းနယ်၏လူဦးရေရှစ်ရာခိုင်နှုန်း (အရေအတွက်အားဖြင့် ငါးသောင်း ငါးထောင်) ရဟူဒီလူဦးရေရှိခဲ့သော်လည်း ၁၉၄၈ ခုနှစ်တွင်မူ ၃၁ရာခိုင်နှုန်း၊ အရေအတွက်အားဖြင့် ၆ သိန်း ၅ သောင်း အထိများပြားလာခဲ့သည်။ ဗြိတိသျှတို့သည် မိမိတို့အုပ်စိုးမှု ကာလအတွင်း ပါလက်စတိုင်းအရပ်တို့ကို နည်းမျိုးစုံဖြင့် ဖိနှိပ်ချုပ်ချယ်ခဲ့သည်။ ၎င်းတို့၏ အသက်မွေးဝမ်းကြောင်းအလုပ်များကို ဘက်ပေါင်းစုံမှ ပိတ်ပင်တားဆီးခဲ့သည်။ ပဋိပက္ခများ၊ လူမျိုးစွဲ၊ ဂိုဏ်းဂဏစွဲများကိုဖြစ်ထွန်းစေ၍ အချင်းချင်းကြားတွင် ရန်လိုမုန်းတီးမှု၊ အငြင်းပွားမှုများကို တိုးပွားစေခဲ့ကာ ရှုပ်ထွေးလှသော ပြဿနာဝဲဂယက်အတွင်း၌ အစဉ်အမြဲနစ်မွန်းနေစေရန် ယုတ်ညံ့လှသော အကြံအစည်များကို အကောင်အထည်ဖော်ခဲ့သည်။ ရဟူဒီအများစု ပါဝင်သော အုပ်ချုပ်ရေးကော်မရှင်တစ်ခုဖွဲ့စည်းပေးပြီး လုပ်ပိုင်ခွင့် အများအပြား ပေးအပ်ခဲ့သည်။

## ပီးလ်ကော်မရှင်

၁၉၃၆ မှ ၁၉၃၉ အထိ ပါလက်စတိုင်းဒေသတွင် ဗြိတိသျှတို့အား ဆန့်ကျင်အုံကြွမှုကြီး ဖြစ်ပေါ်ခဲ့သည်။ ထို့နောက် ဗြိတိသျှအစိုးရသည် ပီးလ်ကော်မရှင်ကို ဖွဲ့စည်းပေးခဲ့သည်။ ထိုကော်မရှင်သည် ပါလက်စတိုင်း ဒေသတွင် ဖြစ်ပေါ်နေသော အခြေအနေအရပ်ရပ်ကို လေ့လာသုံးသပ်ပြီးနောက် ပါလက်စတိုင်းဒေသအတွင်း ရဟူဒီ နှင့် အရဗ်တို့အတွက် သီးခြားနယ်တစ်ခုစီ ခွဲပေးရန်၊ ကွတ်ဒ်(ဂျေရုစလင်မ်)မြို့နှင့် ဟိုင်ဖာမြို့တို့ကို ဗြိတိသျှအစိုးရ၏ ထိန်းသိမ်းစောင့်ရှောက်မှုအောက်တွင် ဆက်လက်ထားရှိရန် အကြံပြုချက် တင်သွင်းခဲ့သည်။ သို့သော် ပါလက်စတိုင်းဒေသရှိ ရဟူဒီနှင့်အရဗ်တို့သည် ထိုအကြံပြုချက်ကို လက်ခံရန်ငြင်းဆန်ခဲ့ကြသည်။

## ရဟူဒီတို့၏လီဆယ်ဝါဒဖြန့်မှုများနှင့် အမေရိကန်ပြည်ထောင်စု၏ ဝင်ရောက်စွက်ဖက်မှု နိဒါန်း

ရဟူဒီတို့သည် ဒုတိယကမ္ဘာစစ်၏အခြေအနေအရပ်ရပ်ကို မိမိတို့အကျိုးအတွက် ကောင်းစွာအသုံးချနိုင်ခဲ့ကြသည်။ ကမ္ဘာတစ်ခွင်မှ စာနာထောက်ထားမှု၊ ကူညီထောက်ပံ့မှုများရရှိရန် ဂျာမနီတွင်၎င်းတို့ကြုံဆုံခဲ့ရသော အဖြစ်အပျက်များကို လွန်ကျူးစွာသရုပ်ဖော်ကာ ကမ္ဘာအနှံ့သို့ ပျံ့နှံ့စေခဲ့သည်။ ၎င်းတို့အတွက် ငြိမ်းချမ်းသော အတည်တကျ နေထိုင်စရာနေရာ မရှိကြောင်းနှင့် ၎င်းကိုဖြေရှင်းရန် တစ်ခုတည်းသောနည်းလမ်းမှာ ပါလက်စတိုင်းဒေသတွင် ရဟူဒီဂျူးနိုင်ငံတော် တည်ထောင်ပေးခြင်းသာဖြစ်ကြောင်း ဝါဒဖြန့်ခဲ့ကြသည်။

ထို့အပြင် ရဟူဒီတို့အား ကူညီထောက်ပံ့ခြင်းသည် ခရစ်ယာန်တို့ အပေါ် မဖြစ်မနေလုပ်ဆောင်ရမည့် သာသနာရေးဆိုင်ရာ တာဝန်ဝတ္တရားနှင့် လူသားချင်းစာနာထောက်ထားမှု၏ တောင်းဆိုချက်ဖြစ်ကြောင်း ခရစ်ယာန် ကမ္ဘာတွင် သတင်းဖြန့်ခဲ့ကြသည်။ ထို့အတူ ကမ္ဘာအင်အားကြီးနိုင်ငံ ဖြစ်လာ သော အမေရိကန်ပြည်ထောင်စုအား မိမိတို့ဘက်ပါအောင် အပြင်းအထန် ကြိုးစားသည်။ အထူးသဖြင့် (၁၉၄၂)ခုနှစ်တွင် ဗာလ်တီမိုးစာချုပ် ချုပ်ဆိုပြီး နောက် အမေရိကန်ပြည်ထောင်စု၏ ထောက်ခံမှု ကိုသာလျှင်ရရှိရန် ကြိုးပမ်း တော့သည်။

ဤသို့ဖြင့် ဗြိတိသျှအစိုးရ၏ (၁၉၃၇)ခုနှစ် မေလတွင် ထုတ်ပြန်ခဲ့သော စက္ကူဖြူကြေငြာစာတမ်း ကိုပစ်ပယ်၍ အမေရိကန်နိုင်ငံ၏ အဓိကပါတီကြီး နှစ်ခုဖြစ်သော ဒီမိုကရက်ပါတီနှင့် ရီပတ်ပလင်ကင်ပါတီ တို့၏ထောက်ခံမှုကို ရယူနိုင်ခဲ့သည်။ ထို့ကြောင့် ၁၉၄၅ ဩဂုတ်လ ၃၁ရက်နေ့တွင် အမေရိကန် သမ္မတ ထရူးမင်းက ရဟူဒီတစ်သိန်းကို ပါလက်စတိုင်းဒေသသို့ ပို့ဆောင်ပေး ရန် ဗြိတိသျှဝန်ကြီးချုပ် အက်တလီအား တောင်းဆိုခဲ့သည်။

## အင်္ဂလိပ်-အမေရိကန် ကော်မတီ

၁၉၄၅ နိုဝင်ဘာ ၁၄ ရက်နေ့တွင် ဗြိတိသျှနိုင်ငံခြားရေးဝန်ကြီး "Bevin" က ပါလက်စတိုင်းအရေး ဖြေရှင်းရန်အတွက် အင်္ဂလိပ်-အမေရိကန် ကော်မတီတစ်ခုဖွဲ့စည်းပြီး ထိုကော်မတီမှ အကြံပြုတင်ပြလာမည့် အချက် များကို အကောင်အထည်ဖော်ရန် ဖိတ်ခေါ်သော ကြေညာချက်တစ်စောင်ကို ထုတ်ပြန်ခဲ့သည်။ ဤသို့ဖြင့် အမေရိကန်သည် ပါလက်စတိုင်းအရေးကိစ္စတွင်

တိုက်ရိုက်ဝင်ရောက်စွက်ဖက်ခွင့် ရသွားတော့သည်။ ၁၉၄၆တွင် ပါလက် စတိုင်းမြေများကို ရဟူဒီတို့အား လွတ်လပ်စွာ ရောင်းချခွင့်ပြုရန်နှင့် ထိုနေရာ များတွင် ရွှေ့ပြောင်းအခြေချသူ ရဟူဒီတစ်သိန်းအား အတည်တကျ နေထိုင် ခွင့်ပြုရန် ထိုကော်မတီက အကြံပြုခဲ့သည်။ သို့ဖြင့် ၁၉၃၉ မှ ၁၉၄၅ အထိ ယဟူဒီ (ကိုးသောင်းနှစ်ထောင်) ပါလက်စတိုင်းတွင် အခြေချခဲ့သည်။

ထို့နောက် ၁၉၄၆ မှ ၁၉၄၈ ထိ ရဟူဒီ (ခြောက်သောင်း တစ် ထောင်)သည် ကမ္ဘာ့နိုင်ငံအသီးသီးမှ ပါလက်စတိုင်းသို့ လာရောက်၍အခြေချ နေထိုင်ခဲ့ကြသည်။ ပါလက်စတိုင်းမြေကေ (နှစ်သိန်းခုနှစ်သောင်း)ကို ဝယ်ယူ ပြီး အခြေချနေထိုင်ရာ အသစ်(၇၃)နေရာကို တည်ထောင်ခဲ့ကြသည်။

## ရဟူဒီအမျိုးသားနိုင်ငံတော်တစ်ခု ပေါ်ထွန်းလာခြင်း

ရဟူဒီတို့အတွက် ကိုယ်ပိုင်ဒေသထူထောင်ပေးရန် မိမိတို့၏ကတိ ကဝတ်ကို ဖြည့်စည်းပေးပြီးနောက် အရဗ်နှင့်ရဟူဒီတို့၏ နယ်မြေပြဿနာကို ၁၉၄၇ ဧပြီလတွင် ကမ္ဘာ့ကုလသမဂ္ဂခုံရုံးသို့လွှဲ၍ ဗြိတိသျှတို့ ကိုယ်လွတ်ရုန်း သွားခဲ့သည်။ ပါလက်စတိုင်းဒေသအား နှစ်ပေါင်း ၃၀ ကြာ အုပ်ချုပ်ခဲ့သော် လည်း မူလဒေသခံများဖြစ်သည့် အရဗ်တို့နှင့်ပတ်သက်၍ မိမိတို့၏တာဝန် ဝတ္တရားများကျေပွန်ရန် ဗြိတိသျှတို့ ပျက်ကွက်ခဲ့သည်။ အကယ်စင်စစ် ပါလက် စတိုင်းဒေသသည် ဗြိတိသျှတို့၏အစောင့်အရှောက်ခံ နယ်မြေဖြစ်သည့် အတွက် ဥပဒေကြောင်းအရ ယင်းဒေသ၏ မူလတိုင်းရင်းသားများဖြစ်သော အရဗ်တို့အား အခွင့်အရေးအပြည့်အဝ ပေးရမည်ဖြစ်ပြီး ၎င်းတို့၏ နိုင်ငံရေး၊

စီးပွားရေး၊ လူမှုရေး(ယဉ်ကျေးမှု)တို့တွင် နစ်နာမှုမဖြစ်စေရန် အပြည့်အဝ တာဝန်ယူရမည်ဖြစ်သည်။

## ပါလက်စတိုင်းအရေး ဖြေရှင်းရန် မအောင်မြင်သော ကြိုးပမ်းဆောင်ရွက်မှု

၁၉၄၇ မေလတွင် ကုလသမဂ္ဂအထွေထွေညီလာခံကြီးသည် ပါလက်စတိုင်းအရေးအဖြေရှာရန် (Unscop)အမည်ရသော သီးသန့်ကော်မတီတစ်ရပ်ဖွဲ့စည်းခဲ့သည်။ ၎င်းနောက် ထိုကော်မတီအား ပါလက်စတိုင်း၏ အခြေအနေအရပ်ရပ်ကို သုံးသပ်စေပြီး အစီရင်ခံစာတစ်စောင်အလျင်အမြန် တင်သွင်းစေခဲ့သည်။ ဤသို့ဖြင့် ဩဂုတ်လ၃၁ရက်နေ့တွင် မိမိ၏ အစီရင်ခံစာကို ကော်မတီက အပြီးသတ် တင်ပြခဲ့သည်။ ထိုအစီရင်ခံစာ၏အကြံပြုချက်များမှာ-

(၁) ပါလက်စတိုင်းအား ဗြိတိသျှအစောင့်အရှောက်ခံနယ် အဖြစ်မှ ရုပ်သိမ်းရန်၊

(၂) ပါလက်စတိုင်းဒေသအား အရပ်နှင့် ရဟူဒီတို့အတွက် သီးခြားနိုင်ငံတစ်ခုစီအဖြစ် ခွဲခြားတည်ထောင်ပေး၍ ကွဒ်စ်မြို့(ဂျေရုစလင်မ်မြို့)ကို နိုင်ငံတကာ၏ ကြည့်ရှုထိန်းသိမ်းမှု အောက်တွင်ထားရှိရန် တို့ဖြစ်ကြသည်။

ထို့နောက် အရပ်ကမ္ဘာသည် ၁၉၄၇ စက်တင်ဘာ ၆ ရက်တွင် ကျင်းပခဲ့သော ဆူဖရ်ကွန်ဖရင့်နှင့် ၁၉၄၇ အောက်တိုဘာ ၇ ရက်မှ ၁၅ ရက်အထိ ကျင်းပပြုလုပ်ခဲ့သော အာလေယဟ်ကွန်ဖရင့်တို့တွင် ထိုကော်မတီ၏ အကြံပြုတင်ပြချက်များကို လက်မခံဘဲ ပယ်ချခဲ့ပြီး ပါလက်စတိုင်းအရပ်တို့အား လူသူလက်နက် အကူအညီပေးခြင်း၊ စစ်တပ်ကို စနစ်တကျဖွဲ့စည်းပေးခြင်း စသော

စစ်ရေးဆိုင်ရာ အကူအညီပေးရေးကိစ္စရပ်များကို ကန့်သတ်ထားရန် ဆုံးဖြတ်ခဲ့ကြသည်။

**အစ္စရေးနိုင်ငံတည်ထောင်ခြင်း**

၁၉၄၈ နိုဝင်ဘာ ၂၉ ရက်နေ့တွင် ကုလသမဂ္ဂအထွေထွေညီလာခံသည် မိမိ၏ဆုံးဖြတ်ချက်အမှတ် ၁၈၁ ကို ထုတ်ပြန်ခဲ့သည်။ ထိုဆုံးဖြတ်ချက်သည် အမေရိကန်၏ ဖိအားပေးမှု၊ရုရှား၏ တက်ကြွစွာ ထောက်ခံမှုတို့ကြောင့် သုံးပုံနှစ်ပုံ မဲအများစုဖြင့် အတည်ဖြစ်ခဲ့သည်။ ထုတ်ပြန်ချက်ထဲတွင် ပါလက်စတိုင်းကို နှစ်ပိုင်းခွဲခြမ်းရန် တင်ပြထားသည်။ ကုလသမဂ္ဂအထွေထွေညီလာခံ၏ အခြေခံစံနှုန်းများနှင့်ဆန့်ကျင်ပြီး လူ့ကျင့်ဝတ်နှင့်လည်းမညီသော ထိုဆုံးဖြတ်ချက်ကြောင့် အစ္စရေး(ရဟူဒီ)တို့သည် ယခင်က ပါလက်စတိုင်း နယ်မြေ ၏ ၁၁ ရာခိုင်နှုန်းသာ ပိုင်ဆိုင်ခဲ့ရာမှ ဆုံးဖြတ်ချက်ထွက်ပြီးနောက်တွင် နယ်မြေစုစုပေါင်း၏ ၅၅ ရာခိုင်နှုန်းအထိ ပိုင်ဆိုင်ခွင့်ရရှိလာခဲ့သည်။

ပါလက်စတိုင်းမြေအား နှစ်ခြမ်းခွဲခြားလိုက်သည့် ဆုံးဖြတ်ချက်ကို အရဗ်ကမ္ဘာနှင့် မွတ်စ်လင်မ်ကမ္ဘာရှိလူတိုင်း လူတိုင်းသည် မိမိတို့ဦးခေါင်းအပေါ် မိုးကြိုးပစ်သည့်အလား အသည်းနင့်စွာ ခံစားခဲ့ကြရသည်။ ထိုဆုံးဖြတ်ချက်သည် တွေ့ဆုံဆွေးနွေး အဖြေရှာ၍ ပါလက်စတိုင်းအစိုးရ တည်ထောင်မည့် မျှော်မှန်းချက်ဟူသမျှကို ပျက်သုန်းစေခဲ့သည်။ အကျိုးဆက်အနေဖြင့် အစ္စလာမ့်ကမ္ဘာတစ်ခွင်တွင် ထိုဆုံးဖြတ်ချက်အား ဆန့်ကျင်သည့် ဆန္ဒပြမှုများ အကြီးအကျယ် ဖြစ်ပေါ်လာခဲ့သည်။ မွတ်စ်လင်မ်တို့သည် မျှတမှုမရှိသော ထိုဆုံးဖြတ်ချက်ကို တားမြစ်ပေးရန် မိမိတို့အစိုးရများအား တောင်းဆိုခဲ့ကြ

သည်။ ပါလက်စတိုင်းနယ်ကို ရဟူဒီတို့၏ စိုးမိုးခြယ်လှယ်မှုအောက် မကျရောက်စေရန် လက်နက်စွဲကိုင်ခဲ့ကြသော်လည်း အကြောင်းအမျိုးမျိုးကြောင့် မအောင်မြင်ခဲ့ပေ။

၁၉၄၈ မေလ ၁၄ ရက်နေ့တွင် ဗြိတိသျှစစ်တပ်များ ပါလက်စတိုင်းနယ်မှ ရုပ်သိမ်းသွား၍ ၎င်း၏အုပ်ချုပ်မှုသည် ညသန်းခေါင်ယံအချိန်တွင် အဆုံးသတ်သွားသည်နှင့်တစ်ပြိုင်နက် ရဟူဒီအမျိုးသားကောင်စီသည် တဲလ်အဗစ်တွင် အစ္စရေး(ရဟူဒီ) နိုင်ငံတည်ထောင်ကြောင်း ကြေငြာခဲ့သည်။




**၁၉၄၆ မှ ၂၀၀၀ ခုနှစ် အထိ ပါလက်စတိုင်းနယ်မြေများကို ရဟူဒီတို့ တဖြည်းဖြည်းချင်း ဝါးမြိုပုံ**

**ပါလက်စတိုင်းအရဗ်မွတ်စ်လင်မ်တို့ အစုလိုက်အပြုံလိုက် သတ်ဖြတ်ခံရခြင်း နှင့် အစ္စလာမ့်ကမ္ဘာ၏ရပ်တည်ချက်**

၁၉၄၈ အောက်တိုဘာလတွင်ကျင်းပသော ဂါဇာကွန်ဖရင့်တွင် ပါလက်စတိုင်းတစ်မျိုးသားလုံး၏ အစိုးရတစ်ရပ်တည်ထောင်ကြောင်း ပါလက်စတိုင်းအရဗ်မွတ်စ်လင်မ်တို့ ကြေညာခဲ့သည်။ သို့သော်လည်း ဥရောပနိုင်ငံသား စစ်ဘက်အကြံပေးအရာရှိများ၊ စစ်ဗိုလ်ချုပ်များ၏ လက်အောက်တွင် ရှိနေကြသော အရဗ်နိုင်ငံတို့၏ စစ်တပ်များသည် အင်အားရှိသော်လည်း ပါလက်စတိုင်းနယ်တွင် ရဟူဒီတို့အား ထိပ်တိုက်ရင်ဆိုင်ခြင်း မပြုသည့်အပြင် ရဟူဒီတို့ကို ရင်ဆိုင်ရန် ချီတက်လာသည့် အရဗ်မိုဂျာဟစ်ဒ်များကိုလည်း ရှေ့တိုးခြင်းမှတားဆီးခဲ့သည်။ ဤအခြေအနေ၌ပင် အရဗ်တို့နှင့်အစ္စရေးတို့ကြား ဖြစ်သောစစ်ကို ရပ်စဲခဲ့ရသောကြောင့် ပါလက်စတိုင်းနယ်မြေများအပေါ် ရဟူဒီတို့၏ သိမ်းပိုက်ခြင်းသည် ဥပဒေကြောင်းအရ အတည်ဖြစ်သွားခဲ့သည်။ ထို့ပြင် အစ္စရေးတို့ကို တွန်းလှန်တိုက်ခိုက်နေသော အလ်ဟာဂျ် အမီးန်ဟူစိန်နီသည် အီဂျစ်စစ်တပ်၏ ဖိအားပေးမှုကြောင့် ဂါဇာဒေသကို စွန့်ခွာခဲ့ရပြီး အပျော်တမ်းတပ်သားများအဖြစ် ပါဝင်တိုက်ခိုက်နေကြသော မွတ်စ်လင်မ် ညီအစ်ကိုတော်များ အဖွဲ့ဝင်များသည်လည်း အီဂျစ်စစ်တပ်၏ ဖမ်းဆီးချုပ်နှောင်မှု ခံကြရပြီး နှိပ်စက်ကလူ ပြုခြင်းခံကြရသည်။ ပါလက်စတိုင်းပြည်သူများမှာလည်း စစ်ပြေးဘဝဖြင့် တစ်နေရာမှ တစ်နေရာသို့ တိမ်းရှောင်ရလျက် မတရားအနိုင်ကျင့် သတ်ဖြတ်မှုကိုခံခဲ့ရသည်။ ထိုအဖြစ်အပျက်များအနက် အကျော်ကြားဆုံးမှာ ၁၉၄၈ ခုနှစ်၊ ဧပြီ ၉ ရက်နေ့ ဒေးရ်ယာစီးန်ဒေသတွင် ပါလက်စတိုင်း

ပြည်သူတို့အား ရဟူဒီတို့ အစုလိုက်အပြုံလိုက် သတ်ဖြတ်မှု ကျူးလွန်ခြင်းဖြစ်သည်။

ဝင်းအရေးအခင်းတွင် ပါလက်စတိုင်းပြည်သူ ၂၅၈ ယောက်ရှဟီးဒ်ဖြစ် ကျဆုံးခဲ့ပြီး ၆၀ ရာခိုင်နှုန်းသော ပါလက်စတိုင်းပြည်သူတို့သည် မိမိတို့၏ နေရပ်ဒေသများကို စွန့်ခွာကာ ရဟူဒီတို့၏ အုပ်ချုပ်မှုအောက်တွင် ရှိသော ဒေသများသို့ သွားရောက်ခိုလှုံကြရသည်။ ထို့အပြင်လူဦးရေ ၃ သောင်းနီးပါး သည်လည်း စစ်ပွဲအတွင်း ရဟူဒီတို့ သိမ်းပိုက်ခဲ့သော နယ်မြေများသို့ ထွက်ပြေး ခိုလှုံကြရသည်။ ၁၉၅၂ ခုနှစ်တွင် ဂျမာလ်အဗ်ဒွန်နာဆွေရ် ဦးဆောင်မှုဖြင့် ပါလက်စတိုင်းအရေးကို အခြခံပြီး အာဏာသိမ်းမှု ပေါ်ပေါက်ခဲ့သည်။ "ပါ လက်စတိုင်းဒေသအရေးတွင် ကျွန်ုပ်တို့အား တိုက်ခိုက်ခွင့် မပေးခဲ့။ သို့သော် ယခု ကျွန်ုပ်တို့၏ ပထမဆုံးရည်မှန်းချက်မှာ ပါလက်စတိုင်းဒေသ လွတ် မြောက်ရေး ဖြစ်သည်"ဟူ၍ အာဏာသိမ်းစဉ်တွင် ၎င်းတို့ ကြွေးကြော်ခဲ့ကြ သည်။



**၁၉၄၈ ခုနှစ်၊ ဧပြီလ ၉ ရက်နေ့ ဒေးရ်ယာစီးန်ဒေသတွင် ပါလက်စတိုင်းတို့ အစုလိုက် အပြုံလိုက် သတ်ဖြတ်ခံရမှုမြင်ကွင်း**

## အီဂျစ်အား ဗြိတိသျှ၊ ပြင်သစ်နှင့် အစ္စရေးတို့ကျူးကျော်တိုက်ခိုက်ခြင်း

၁၉၅၅ တွင် ဂျမာလ်အဗ်ဒွန်နာဆာရ်သည် စူးအက်တူးမြောင်းကို ပြည်သူပိုင်ပြုလုပ်လိုက်သောအခါ အနောက်ကမ္ဘာဘက်မှ လက်တုံ့ပြန်သည့် အနေဖြင့် ၁၉၅၆ တွင် ဗြိတိန်၊ ပြင်သစ်နှင့် အစ္စရေးတို့သည် အီဂျစ်ပြည်အား ကျူးကျော်တိုက်ခိုက်ကြသည်။ သို့သော် အင်အားကြီး နှစ်နိုင်ငံဖြစ်သော အမေရိကန်နှင့် ဆိုဗီယက်တို့၏ထောက်ခံမှု မရသောကြောင့် ကျူးကျော်သူများ မအောင်မမြင်ဖြစ်ကာ ၁၉၅၆၊ ဒီဇင်ဘာ ၂၃ ရက်နေ့တွင် အီဂျစ်ပြည်မှ တပ်ပြန်ဆုတ်သွားခဲ့သည်။

ဤသို့ဖြင့် စူးအက်တူးမြောင်းစစ်ပွဲ ပြီးဆုံးသွားကာ အီဂျစ်တို့အနေဖြင့် ယခင်က အစ္စရေးလက်ဝယ်ပေးခဲ့ရသော မိမိဒေသများကို ပြန်လည် ရယူနိုင်သောအကျိုးအမြတ်ကို ရရှိခဲ့သည်။ သို့သော် အက္ကဘာပင်လယ်ကွေ့တွင်မူ အစ္စရေးကို မဟန့်တားနိုင်ခဲ့ပေ။

## ဗြိတိသျှတို့၏ရပ်တည်ချက်

စူးအက်တူးမြောင်းစစ်ပွဲပြီးနောက် ဗြိတိသျှတို့သည် အစ္စရေးဘက်မှ မားမားမတ်မတ် ရပ်တည်ခဲ့သည်။ အမှန်စင်စစ် ဤကဲ့သို့ ရပ်တည်ခြင်းသည် ဗြိတိသျှတို့၏ အမေရိကန်လက်အောက်ခံဖြစ်နေသည့် ပြယုဂ်တစ်ခုပင်ဖြစ်သည်။ ၁၉၆၇ ခုနှစ်အထိ ဗြိတိသျှအစိုးရသည် အစ္စရေးတို့အား နိုင်ငံရေး၊ စစ်ရေးအရ ကူညီထောက်ပံ့ခဲ့သည်။ သို့သော် ကမ္ဘာ့နိုင်ငံရေးဇာတ်ခုံတွင် ဗြိတိသျှတို့ ဩဇာအာဏာ ကျဆင်းလာသောအခါ ပါလက်စတိုင်းဒေသ

ငြိမ်းချမ်းရေးအတွက် အမေရိကန် ကမကထပြုသော ၁၉၇၃-၁၉၉၄ ငြိမ်းချမ်းရေး အစီအစဉ်ကို ထောက်ခံခဲ့သည်။

## ၁၉၆၇ခြောက်ရက်ကြာစစ်ပွဲ

၁၉၆၇၊ ဇွန်လတွင် အီဂျစ်သည် သီရန်ပင်လယ်အော်နှင့် အကွာဘာပင်လယ်ကွေ့ကို ပိတ်ဆို့ပြီး အစ္စရေးသင်္ဘောများ ဖြတ်သန်းသွားလာခြင်းကို တားမြစ်ခဲ့သည်။ ထိုဒေသတွင်ရှိနေသော ကုလသမဂ္ဂငြိမ်းချမ်းရေးတပ်များကို ရုပ်သိမ်းစေခဲ့သည်။ သို့သော် ဇွန်လ ၅ ရက်နေ့ မနက်တွင် အစ္စရေးလေတပ်သည် အီဂျစ်၊ ဂျော်ဒန်နှင့် ဆီးရီးယားနိုင်ငံတို့၏ လေတပ်အခြေစိုက်စခန်းများကို ဒုံးကျည်များဖြင့် ပစ်ခတ်ဖျက်ဆီးခဲ့သည်။ ၆ ရက်ကြာသော စစ်ပွဲသည် ယခင်အခြေအနေအရပ်ရပ်ကို အပြောင်းလဲကြီး ပြောင်းလဲစေခဲ့သည်။

ထို့ကြောင့် အရဗ်နိုင်ငံတို့သည် ဝမ်းနည်းကြေကွဲဖွယ်ရာ အဖြစ်အပျက်နှင့် ထပ်မံကြုံကြိုက်ရသည်။ စစ်ပွဲတွင် အစ္စရေးတို့သည် ပါလက်စတိုင်းဒေသ၏ ကျန်အစိတ်အပိုင်းများဖြစ်သော အနောက်ဘက်ကမ်းခြေဒေသ၏ ၅၈၇၈ ကီလိုမီတာ၊ ဂါဇာကမ်းမြောင်ဒေသ၏ ၃၆၃ ကီလိုမီတာ၊ အီဂျစ်ဆိုင်းနိုင်းကျွန်းဆွယ်ဒေသ၏ ၆၁၁၉၈ ကီလိုမီတာနှင့် ဆီးရီးယားနိုင်ငံ၏ ဂျူလန်(ဂိုလန်) ကုန်းမြင့်ဒေသ ၁၁၅၀ ကီလိုမီတာ အကျယ်အဝန်းကို ထပ်မံသိမ်းပိုက်ခဲ့သည်။ စစ်ပွဲ၏အကျိုးဆက်မှာ နောက်ထပ်ပါလက်စတိုင်းသားသုံးသိန်းသုံးသောင်းသည် မိမိတို့ဒေသမှ ထပ်မံစွန့်ခွာထွက်ပြေးခဲ့ရသည်။

ထို့ကြောင့် အရပ်အစိုးရများအပေါ် ပြည်သူလူထု၏ယုံကြည်ချက် ပျက်ပြားသွားခဲ့ပြီး ပါလက်စတိုင်းဒေသ လွတ်မြောက်ရေး အတွက်အမျိုးသား ရေး လှုပ်ရှားမှုများ ပေါ်ပေါက်လာခဲ့သည်။

**အရပ်နိုင်ငံများ စစ်ရှုံးခြင်းနှင့်၎င်း၏အကျိုးဆက်**

အစ္စရေးနှင့်ဖြစ်သောစစ်ပွဲတွင် အရပ်နိုင်ငံများ ရှုံးနိမ့်ခဲ့ပြီးနောက် ပါလက်စတိုင်းသားတို့သည် အသေခံတိုက်ခိုက်သော နည်းလမ်းများဖြင့် အစ္စရေးတို့အား ဆန့်ကျင်တော်လှန်ခဲ့ကြသည်။ ထိုတိုက်ခိုက်မှုများကြောင့် အစ္စရေးတို့၏ အသက်၊ ဥစ္စာပစ္စည်း အများအပြား ဆုံးရှုံးခဲ့သည်။ သို့သော် ဂျော်ဒန်နှင့် ပါလက်စတိုင်း လွတ်မြောက်ရေးတပ်တို့ကြား ဖြစ်ပွားခဲ့သော အချင်းချင်း ထိပ်တိုက်တွေ့မှုသည် အစ္စရေးတို့အား တော်လှန်နေသည့် ပါလက်စတိုင်း ခုခံရေး လှုပ်ရှားမှုကို အားအင်ချည့်နဲ့စေခဲ့သည်။ ထို့ပြင် အချို့အရပ်နိုင်ငံများသည် လည်း ပါလက်စတိုင်းတို့ လွတ်လပ်စွာ လှုပ်ရှားခွင့် မရအောင် အနှောင့်အယှက် အတားအဆီးပြုခဲ့ကြသည်။ ၁၉၈၀ မှ ၁၉၈၈ အထိ ဖြစ်ပွားခဲ့သော အီရတ်-အီရန်စစ်ပွဲသည်လည်း ပါလက်စတိုင်းအရေးအပေါ် ဆိုးရွားသော အကျိုးသက်ရောက်မှု ဖြစ်စေခဲ့သည်။

ထိုနည်းတူ ၁၉၇၇-၁၉၈၂တွင် ချုပ်ဆိုသော စစ်ပြေငြိမ်းစာချုပ်တွင် အီဂျစ်ပါဝင်လက်မှတ်ရေးထိုးခဲ့သောကြောင့် အရပ်ကမ္ဘာနှင့် အီဂျစ်ကြား ထိပ်တိုက်တွေ့မည့် အခြေအနေသို့ ဆိုက်ရောက်ခဲ့သည်။ ထိုအခြေအနေများကြောင့် ပါလက်စတိုင်းလွတ်မြောက်ရေး လှုပ်ရှားနေသော အဖွဲ့အစည်းများသည် အရပ်နိုင်ငံတို့၏ထောက်ခံမှုမရတော့ဘဲ အထီးကျန်သွားခဲ့ရသည်။

သို့သော် အစ္စရေးမှာမူ မဟာအင်အားကြီးနိုင်ငံများ၏ အပြည့်အဝထောက်ခံမှု နှင့် ကူညီမှုကို စဉ်ဆက်မပြတ် ရရှိခဲ့သည်။

## ၁၉၇၃ အရပ်-အစ္စရေးစစ်ပွဲ(၄ကြိမ်မြောက်အရပ်-အစ္စရေးစစ်ပွဲ)

၁၉၇၃ အောက်တိုဘာ ၆ ရက်တွင် အရပ်-အစ္စရေးစစ်ပွဲ စတင်ဖြစ်ပွားခဲ့သည်။ စစ်ပွဲအစတွင်ပင် အီဂျစ်သည် အစ္စရေးအပေါ် အောင်မြင်မှုများ ရရှိခဲ့သည်။ စစ်ပွဲတွင် အီဂျစ်နှင့်အတူ ဆီးရီးယားနိုင်ငံလည်းပါဝင်ခဲ့သည်။ အီဂျစ်စစ်တပ်သည် စူးအက်တူးမြောင်း၏ အရှေ့ပိုင်းဒေသကို သိမ်းပိုက်ပြီး ဆိုင်းနိုင်း(ဆီနှ)ကျွန်းဆွယ်အထိ ရောက်ရှိခဲ့သည်။ အောက်တိုဘာလတွင် ဖြစ်ပွားသော ဤ စစ်ပွဲကို အရပ်တို့၏အောင်မြင်မှု အဖြစ်မှတ်ယူကြသည်။ သို့သော် အီဂျစ်သမ္မတ အန်ဝရ်ဆာဒါသ်သည် ဤစစ်ပွဲကို မိမိနိုင်ငံအကျိုးအတွက် အသုံးချခဲ့သည်။ ၎င်းသည် ၁၉၇၇ နိုဝင်ဘာတွင် အစ္စရေးနိုင်ငံသို့ အလည်အပတ်သွားရောက်ခဲ့ပြီး ၁၉၇၈ခုနှစ်၊စက်တင်ဘာတွင် ကင့်မ်ဒေးဗစ်စခန်းတွင် ချုပ်ဆိုသော ငြိမ်းချမ်းရေး စာချုပ်တွင် လက်မှတ်ရေးထိုးခဲ့သည်။ ထိုငြိမ်းချမ်းရေး စာချုပ်အရ အီဂျစ်သည် အစ္စရေးနှင့် သင့်မြတ်သွားပြီး နှစ်နိုင်ငံကြား အငြင်းပွားမှုလည်း ချုပ်ငြိမ်းသွားခဲ့သည်။ စာချုပ်အရ အီဂျစ်သည် ယခင်စစ်ပွဲ၌ ဆုံးရှုံးသွားခဲ့သော ဆိုင်းနိုင်း(ဆီနှ)ကျွန်းဆွယ်ဒေသကို အစ္စရေးလက်မှ ပြန်လည်ရရှိခဲ့သည်။

ထိုအခြေအနေများကြောင့် ပါလက်စတိုင်း လွတ်မြောက်ရေး လှုပ်ရှားမှုအတွက် အားကိုးအားထားရသော စစ်အင်အားတောင့်တင်းသည့် အီဂျစ်ကို ပါလက်စတိုင်းတို့ ဆုံးရှုံးခဲ့ရပြီး အစ္စရေးနှင့်အီဂျစ်ကြား ချုပ်ဆိုခဲ့သော ငြိမ်း

ချမ်းရေးစာချုပ်ကြောင့်လည်း အနာဂတ်ကာလတွင် အစ္စရေးအား စစ်ရေးအရ အရေးယူနိုင်သည့် အခွင့်အလမ်းများ ထပ်မံလက်လွှတ်ခဲ့ရပြန်သည်။

## အာဖဂန်နစ္စတန်အား ဆိုဗီယက်ရုရှတို့ ကျူးကျော်သိမ်းပိုက်ခြင်းနှင့် ၎င်း၏ အကျိုးဆက်

၁၉၇၉ တွင် အာဖဂန်နစ္စတန်အား ဆိုဗီယက်တို့ ကျူးကျော် သိမ်းပိုက်လိုက်သောအခါ အစ္စလာမ့်ကမ္ဘာ၏အာရုံသည် ပါလက်စတိုင်းမှ အာဖဂန်နစ္စတန်ဘက်သို့ ရောက်ရှိသွားခဲ့သည်။ ဆိုဗီယက်တို့အား အာဖဂန်မှ ပြန်လည်တိုက်ထုတ်ရေးကို အမေရိကန်၏ ကျောထောက်နောက်ခံပြုမှုဖြင့် အာဖဂန်မိုဂျာဟစ်ဒ်တို့ ကြိုးပမ်းခဲ့ပြီး ဆိုဗီယက်တော်လှန်ရေး ဂျေဟားဒ်စစ်ပွဲဟု အမည်ပေးခဲ့သည်။

ထို့အတူ ပင်လယ်ကွေ့အရပ်နိုင်ငံများသည်လည်း အာဖဂန်တို့အား အင်တိုက်အားတိုက် ကူညီထောက်ပံ့ခဲ့ကြသည်။ ထို့နောက် အရပ်ကမ္ဘာတွင် ဆက်တိုက်ဆိုသလို ဖြစ်ပေါ်လာခဲ့သော (သို့မဟုတ်) ရည်ရွယ်ချက်ရှိရှိဖြင့် ပြုလုပ်ခြင်းခံရသော အစိုးရအပြောင်းအလဲများသည်လည်း အရပ်တို့၏ ပါလက်စတိုင်းအပေါ်ထားရှိသော အလေးထားမှုကို ပြောင်းလဲသွားစေခဲ့သည်။ ထို့ကြောင့် ပါလက်စတိုင်းတို့သည် အားပေးကူညီသူ ကင်းမဲ့သွားပြီး အထီး ကျန်သွားခဲ့ရသည်။

## အရပ်နိုင်ငံတို့၏ ပါလက်စတိုင်းအပေါ် ရန်လိုသောအမြင်

အခြားတစ်ဖက်တွင် အရပ်အစိုးရများသည် မိမိတို့နိုင်ငံများအတွင်းရှိ ပါလက်စတိုင်းတို့ကို အားပေးကူညီနေသော သာသနာချစ်စိတ်၊ မခံချင်စိတ်ရှိသူများကို အမျိုးမျိုးသောဒုက္ခများပေးခဲ့သည်။ သာသနာ့အရေး နိုးကြားတက်ကြွသူများကို ထောင်သွင်းအကျဉ်းချကာ အစ္စလာမ့်အရေးလှုပ်ရှားနေကြသော အဖွဲ့အစည်းများကို အပြင်းအထန် နှိပ်ကွပ်ခဲ့သည်။ အထူးသဖြင့် ဆီးရီးယား၊ ဂျော်ဒန်နှင့် အီဂျစ်တို့ရှိ ပါလက်စတိုင်းတို့ကို ကူညီထောက်ပံ့ပေးနေသည့် မွတ်စ်လင်မ်ညီနောင်များအဖွဲ့၏ အသင်းဝင်များကို ထောင်သွင်းအကျဉ်းချကာ နည်းလမ်းမျိုးစုံဖြင့် ညှဉ်းပန်းနှိပ်စက်ခဲ့ကြသည်။

ထို့ကြောင့် ပါလက်စတိုင်းသားတို့သည် မိမိတို့အား ကူညီနေသည့် ပုဂ္ဂိုလ်များ၊ အကူအညီအထောက်အပံ့များကို တစ်ဖန်လက်လွတ်ဆုံးရှုံးခဲ့ရသည်။ အခြားတစ်ဖက်တွင်မူ အစ္စရေးတို့သည် အနောက်အင်အားကြီး နိုင်ငံတို့၏ပံ့ပိုးကူညီမှု၊ အချို့အရပ်အစိုးရတို့နှင့် လျှို့ဝှက်ချုပ်ဆိုခဲ့သော စာချုပ်များကို အကြောင်းခံပြီး မိမိစစ်အင်အားကို လွန်မင်းစွာ တိုးချဲ့နေခဲ့ကာ ပါလက်စတိုင်းမွတ်စ်လင်မ်တို့အား ယခင်ကထက် အဆပေါင်းများစွာ ပိုမိုဖိနှိပ်ခဲ့သည်။

## လူထုအုံကြွလှုပ်ရှားမှုများ

၁၉၈၇ ဒီဇင်ဘာ ၉ ရက်နေ့တွင် လူထုအုံကြွလှုပ်ရှားမှုများ စတင်ဖြစ်ပေါ်လာသည်။ ထိုလှုပ်ရှားမှုများနှင့်အတူ အစ္စရေးကို လက်နက်စွဲကိုင်တော်လှန်သော ဟားမတ်စ်(ဟမားစ်)အဖွဲ့ ပေါ်ပေါက်လာခဲ့သည်။ လူထုအုံကြွမှုတွင် ထင်ရှားကျော်ကြားခဲ့သော မိမိတို့၏ခေါင်းဆောင် ရှိုင်းခ်အဟ်မဒ်

ယာစီန်းကြောင့် ဟမားစ်အဖွဲ့သည် ပါလက်စတိုင်းပြည်သူတို့၏ ထောက်ခံမှု အကြီးအကျယ်ရရှိခဲ့သည်။ ယခုအထိတိုင်လည်း ဟမားစ်တစ်ဖွဲ့တည်းသာ အစ္စရေးတို့အား ခုခံတော်လှန်လျက်ရှိသည်။ ပါလက်စတိုင်းနောက်တစ်ဖွဲ့ဖြစ်သော အလ်ဖသ်(ဖာတာ)အုပ်စုသည် အစပိုင်းတွင် အစ္စရေးကို တွန်းလှန်ရန်အတွက် ခေါင်းဆောင်ယာဆင်ရ်အာရဖသ် "ယာဆာအာရာဖသ်" ဦးဆောင်ပြီး ဖွဲ့စည်းခဲ့သော်လည်း နောက်ပိုင်းတွင် အနောက်နိုင်ငံများ၏ ကမကထ ပြုမှုဖြင့် စာချုပ်ပေါင်းများစွာ ချုပ်ဆိုပြီး အစ္စရေးနှင့် ပြေငြိမ်းရေး ပြုလုပ်ခဲ့သည်။ ယခု အရဗ်နိုင်ငံအများစုသည်လည်း ထိုဖာတာအုပ်စုကိုသာ ထောက်ခံကြသည်။

ထိုအုပ်စုသည် အနောက်ဘက်ကမ်းဒေသတွင် အခြေပြုပြီး ဟမားစ်အုပ်စုမှာမူ ဂါဇာကမ်းမြောင်ဒေသကို ထိန်းချုပ်ထားသည်။ ဂါဇာကမ်းမြောင်ဒေသကို အစ္စရေးတို့ ဝန်းရံပိတ်ဆို့ပြီး အကြိမ်ကြိမ် ကျူးကျော်တိုက်ခိုက်ရာတွင် အစ္စလာမ့်ကမ္ဘာသည် ပါလက်စတိုင်းတို့ကို မကူညီဘဲ လျစ်လျူရှုခဲ့သည်ကိုကြည့်လျှင် ပါလက်စတိုင်းအရေးသည် အစ္စလာမ့်ကမ္ဘာအရေး မဟုတ်ဟု သဘောထားနေကြသည်ကို သိမြင်နိုင်သည်။ ထို့ကြောင့်ပင် အချို့ အစ္စလာမ့်ကမ္ဘာအသိုင်းအဝန်းက ပါလက်စတိုင်းအရေးသည် အရဗ်အမျိုးသားရေးကိစ္စတစ်ရပ်သာဖြစ်သည်ဟု ယူဆကြသဖြင့် ပါလက်စတိုင်းသားတို့သည် အရဗ်ကမ္ဘာအပြင် အစ္စလာမ့်ကမ္ဘာ၏ ထောက်ခံမှုမှလည်း လက်မဲ့ဖြစ်ခဲ့ရပြန်သည်။

## ၁၉၈၀နောက်ပိုင်းအခြေအနေ

၁၉၈၀နှောင်းပိုင်း၊ ၁၉၉၀ အစပိုင်းတွင် အရပ်ကမ္ဘာနှင့် ကမ္ဘာ့မျက်နှာစာတွင် ကြီးမားသော နိုင်ငံရေး အလှည့်အပြောင်းများ ပေါ်ပေါက်လာသည်။ ထိုအပြောင်းအလဲများသည် ပါလက်စတိုင်းအရေးကိစ္စ ပေါ်အရပ်ကမ္ဘာ၏ ယိုင်နဲ့နေသော ရပ်တည်ချက်ကို ပိုမိုချည့်နဲ့စေခဲ့ပြန်သည်။ ထိုအလှည့်အပြောင်းများအနက်မှ ထူးခြားသောဖြစ်စဉ်မှာ ဆက်ဒမ်ဟူစိန် ခေါင်းဆောင်သော အီရတ်နိုင်ငံသည် မိမိမွတ်စ်လင်မ် ညီအစ်ကိုနိုင်ငံဖြစ်သော ကူဝိတ်ကို ကျူးကျော်သိမ်းပိုက်ခြင်းဖြစ်သည်။ ၎င်း၏အကျိုးဆက်မှာ အရပ်ကမ္ဘာ၏ အင်အားပြိုကွဲသွားခြင်းဖြစ်ပြီး အချင်းချင်း ရန်လိုသော အခြေအနေသို့ ဆိုက်ရောက်သွားခဲ့သည်။

ထို့အတူ အီရတ်နိုင်ငံ၏စစ်ရေး၊ စီးပွားရေး၊ ရေနံထုတ်လုပ်ရေး လုပ်ငန်းများစွာ ထိခိုက်ပျက်စီးခဲ့သည်။ အီရတ်၏ကျူးကျော်စစ်ကြောင့် ဖြစ်ပေါ်လာသော ပင်လယ်ကွေ့စစ်ပွဲ၏ရလဒ်များသည် ပါလက်စတိုင်းအရေးအား ကြီးကျယ်စွာ ထိခိုက်နစ်နာစေခဲ့သည်။ ထိုစစ်ပွဲတွင် အီရတ်အား ထောက်ခံခဲ့သောကြောင့် ကူဝိတ်တို့သည် ပါလက်စတိုင်းတို့အား အကူအညီဖြတ်တောက်ခဲ့သည်။




**အီရတ်နှင့်ကူဝိတ်နေရာပြမြေပုံ**

## ဆိုဗီယက်ပြည်ထောင်စုပြိုကွဲပြီးနောက်ပါလက်စတိုင်းအခြေအနေ

ဆိုဗီယက်ပြည်ထောင်စုပြိုကွဲပြီးနောက်နှင့် ၁၉၉၁တွင် ပင်လယ်ကွေ့ စစ်ပွဲပြီးသောအခါ အမေရိကန်ပြည်ထောင်စု သည်ကမ္ဘာ့အင်အားအကြီးဆုံး နိုင်ငံဖြစ်လာခဲ့သည်။ ပါလက်စတိုင်းဒေသတွင်လည်း ယဟူဒီတို့၏ သြဇာ အာဏာ ပိုကြီးမားလာသဖြင့် ပြဿနာပိုမိုကြီးထွားလာသည်။ သို့ဖြင့် ၁၉၉၁ အောက်တိုဘာတွင် စပိန်နိုင်ငံ မက်ဒရစ်မြို့၌ ကျင်းပသော အရဗ်-အစ္စရေး ကွန်ဖရင့်တွင် ပါဝင်တက်ရောက်ရန် အမေရိကန်သည် အရဗ်နိုင်ငံတို့အား ဆွဲဆောင်နိုင်ခဲ့သည်။ ထို့နောက်ပိုင်းတွင် ကြားခံမပါသော အရဗ်-အစ္စရေး ဆွေးနွေးပွဲများ ဆက်တိုက်ဆိုသလို ပေါ်ပေါက်လာခဲ့သည်။

## အော်စလိုသဘောတူစာချုပ်

၂ နှစ်ကြာ ဆွေးနွေးပြီးနောက် အရဗ်-အစ္စရေးအကြား အော်စလို သဘောတူစာချုပ် ချုပ်ဆိုရန် ကြေငြာခဲ့သည်။ ၁၉၉၃ စက်တင်ဘာ ၁၃ ရက် နေ့တွင် အမေရိကန်သမ္မတ ဘီလ်ကလင်တန်၊ ပါလက်စတိုင်းခေါင်းဆောင် ယာဆင်ရ်အာရာဖသ်နှင့် အစ္စရေးဝန်ကြီးချုပ် အစ်ဆ်ပာက်ရာဘင်တို့ ရှေ့ မှောက်တွင် တရားဝင်လက်မှတ်ရေးထိုးပွဲ ပြုလုပ်ခဲ့သည်။ ပါလက်စတိုင်း ဘက်မှ မဟ်မူးဒ်အဗ္ဗားဆ်၊ အစ္စရေးဘက်မှ နိုင်ငံခြားရေးဝန်ကြီး ရှမ်အူးန် ပဲရစ်ဇ်တို့ စာချုပ်တွင် လက်မှတ်ရေးထိုးခဲ့ကြသည်။ အမေရိကန်နှင့် ရုရှားနိုင်ငံ ခြားရေးဝန်ကြီးတို့လည်း သက်သေများအဖြစ် ပါဝင်ခဲ့သည်။ ထို့နောက်ပိုင်း တွင် အမျိုးမျိုးသော သဘောတူညီချက်များ၊ စာချုပ်များချုပ်ဆိုခဲ့သည်။ သို့ သော် ချုပ်ဆိုခဲ့သော စာချုပ်များတွင် အခြေခံအားဖြင့် အစ္စရေးတို့၏အကျိုး

စီးပွားကိုသာ အလေးထားခဲ့ပြီး အော်စလိုသဘောတူညီချက်အရ ပါလက်စတိုင်းအစိုးရ တည်ထောင်ရေးမှာမူ အရေးကြီးကိစ္စရပ်များ ဆုံးဖြတ်ရေးအဆင့်အထိ မရောက်နိုင်ဘဲ မအောင်မမြင်ဖြစ်ခဲ့သည်။

**အစ္စလာမ့်ကမ္ဘာ၏လက်ရှိ အခင်းအကျင်း**

အထက်တွင် တင်ပြခဲ့သော ပါလက်စတိုင်းသမိုင်းရေးရာကို လေ့လာဆန်းစစ်ခြင်းအားဖြင့် သိရှိရသည်မှာ-ရဟူဒီနိုင်ငံ အစ္စရေးပေါ်ပေါက်လာခြင်းနှင့် ၎င်းအား အခိုင်အမာတည်တံ့စေသော အဓိကအကြောင်းတရားများမှာ- အနောက်တိုင်းနယ်ချဲ့တို့၏လက်ချက်၊ အရဗ်အချင်းချင်းမသင့်မြတ်မှု၊ ပါလက်စတိုင်းအရေးကို အရဗ်ခေါင်းဆောင်တို့ ဥပေက္ခာပြုမှု၊ ပါလက်စတိုင်းကို ရဟူဒီလက်မှ အချိန်မီ မကယ်တင်မှု၊ ပါလက်စတိုင်းခုခံရေး အဖွဲ့အစည်းများအား ပြည့်ပြည့်ဝဝ ကူညီထောက်ပံ့မှုများ မပြုလုပ်မှုတို့ကြောင့် ဖြစ်ကြသည်။ ကင့်မ်ဒေးဗစ် သဘောတူစာချုပ်ကို အစ္စရေးနှင့် ချုပ်ဆိုပြီးနောက် အီဂျစ်သည် ၎င်းနှင့် နားလည်မှုယူထားပြီး အစ္စရေးကိုတော်လှန်နေသော ပါလက်စတိုင်းအဖွဲ့အစည်းများကို ဆန့်ကျင်ရုံမျှမက ၎င်းတို့အား အစ္စရေးတို့ အရေးယူ နှိပ်ကွပ်နေခြင်းကိုပင် အားပေးထောက်ခံလျက်ရှိသည်။ အီဂျစ်၏သဘောထားသည် အစ္စရေးတို့ ဂါဇာကမ်းမြောင်ဒေသကို ဝန်းရံပိတ်ဆို့ ထားချိန်၌ ဘူးပေါ်သလို ပေါ်ခဲ့သည်။

အစ္စရေးအား ဆန့်ကျင်ရာတွင် ထိရောက်သော အင်အားတစ်ရပ် အနေဖြင့် ပါဝင်နိုင်သည့် အစ္စလာမ့်နိုင်ငံများသည်လည်း မိမိတို့၏ပြည်တွင်းရေးပြဿနာများနှင့် ရင်ဆိုင်နေရသဖြင့် ပါလက်စတိုင်းအရေးကို အာရုံမစိုက်နိုင်

ပေ။ အစ္စလာမ့်ကမ္ဘာရှိ အင်အားကြီးနိုင်ငံတစ်နိုင်ငံဖြစ်သော တူရကီသည်လည်း မိမိတို့အော်တိုမန် အင်ပါယာသည် အရဗ်တို့၏ ပုန်ကန်မှုကြောင့် ပျက်သုန်းခဲ့ရသည်ဟု သဘောပိုက်ကာ အရဗ်တို့နှင့်အဆက်အသွယ် ဖြတ်တောက်ခဲ့ပြီး အစ္စရေးနှင့် နီးကပ်သောဆက်ဆံရေး ထားရှိခဲ့သည်။ သို့သော် လက်ရှိ တူရကီအစိုးရသည် အစ္စလာမ္မစ်အစိုးရဖြစ်သည့်အတွက် အရဗ်တို့အပေါ် စာနာထောက်ထားမှုရှိပြီး ပူးပေါင်းဆောင်ရွက်မှုများ ပြုလုပ်လျက်ရှိသည်။

သို့သော် နေတိုးစစ်စာချုပ် အဖွဲ့ဝင်နိုင်ငံ တစ်နိုင်ငံဖြစ်နေသည့်အပြင် ဥရောပသမဂ္ဂအဖွဲ့ဝင် ဖြစ်ရန်ကြိုးပမ်းနေသောကြောင့် ပါလက်စတိုင်းအရေးကို ထိရောက်စွာ ကူညီဆောင်ရွက်ပေးနိုင်ခြင်း မရှိသေးပေ။ ထို့ပြင် ပါကစ္စတန်၊ အီရန်နှင့် ဆူဒန်နိုင်ငံတို့သည်လည်း ပြည်တွင်းရေးပြဿနာများနှင့် ရင်ဆိုင်နေရပြီး အစ္စလာမ့်ကမ္ဘာ၏အချို့နိုင်ငံများသည် အစ္စရေးနှင့် လျှို့ဝှက်စွာနားလည်မှု ယူထားကြသည်။

## အစ္စရေးအား ဥရောပ၏ထောက်ခံမှု

တစ်ဖက်တွင် ပါလက်စတိုင်းတို့အား အရဗ်တို့အပြည့်အဝ မထောက်ခံကြသော်လည်း အခြားတစ်ဖက်၌မူ ဥရောပတစ်ခုလုံးသည် အစ္စရေးတို့အား ပြောင်ပြောင်တင်းတင်း ထောက်ခံကြသည်။ ထိုထောက်ခံမှု၏ ပုံရိပ်များမှာ ၁၉၃၈ ခုနှစ် အဖြစ်အပျက်နှင့် ၂၀၀၉ ခုနှစ်တွင် ဂါဇာကမ်းမြောင်ဒေသအား အစ္စရေးတို့ ဝန်းရံပိတ်ဆို့ပြီး လေကြောင်းမှ အပြင်းအထန် ဗုံးကြဲတိုက်ခိုက်မှုတို့တွင် ပေါ်လွင်ထင်ရှားခဲ့သည်။

ထို့ထက်ပိုမို ဝမ်းနည်းဖွယ်ကောင်းသည့်အချက်မှာ ပါလက်စတိုင်း ခုခံတော်လှန်ရေး အဖွဲ့အစည်းဖြစ်သော ဟမားစ်ကို မွတ်စ်လင်မ်နိုင်ငံတို့ မကူညီသည့်အပြင် အချို့နိုင်ငံတို့သည် တရားဝင်ဆန့်ကျင်ကြောင်း ဖော်ပြကြပြီး အစ္စရေးအား လျှို့ဝှက်အကူအညီများပေးကြသည်။ ပါလက်စတိုင်းအရေးသည် အရဗ်အရေးသက်သက်သာမဟုတ်ဘဲ အစ္စလာမ့်ကမ္ဘာ့အရေး ဖြစ်သည်။ ဥရောပတစ်ခုလုံး အစ္စရေးအား ထောက်ခံအားပေးကူညီမှုကို ဘဲလ်ဖိုးကြေညာစာတမ်းတွင် ပါဝင်သည့်အချက်များမှ သိနိုင်သည်။ ၎င်းတွင် ပါဝင်သည့်အချက်များမှာ-

"ဂျူးလူမျိုးတို့ကို ပြန်လည်နေရာချထားရေးနှင့်ပတ်သက်ပြီး နိုင်ငံလေးနိုင်ငံသည် မိမိတို့၏ ကတိကဝတ်များကို အပြည့်အဝ အကောင်အထည်ဖော်ခဲ့ကြသည်။ ရဟူဒီတို့ မှန်သည်ဖြစ်စေ၊ မှားသည်ဖြစ်စေ၊ ကောင်းသည်ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ ၎င်းတို့သည် ကျွန်ုပ်တို့ယဉ်ကျေးမှု၊ ကျွန်ုပ်တို့ လိုအပ်ချက်၊ အနာဂတ်၏ကျွန်ုပ်တို့မျှော်မှန်းချက်များကို ဖြည့်စည်းပေးရန် အတွက် အရေးပါသော အခန်းကဏ္ဍမှ ပါဝင်နေသည်ကို သံသယရှိရန် မလိုပေ။ ထိုဂျူးလူမျိုးတို့သည် အရဗ်တိုင်းပြည်များတွင် ခိုလှုံနေထိုင်သည့် ၇ သိန်းသော ပါလက်စတိုင်းအရဗ်တို့၏ဆန္ဒ၊ မျှော်မှန်းချက်များထက် အဆ ပေါင်းများစွာ ကျွန်ုပ်တို့အတွက် အရေးပါလှသည်။"

ပါလက်စတိုင်းအရေးနှင့် ပတ်သက်ပြီး အမေရိကန်နိုင်ငံ၏ ရပ်တည်ချက်ကို စိုးရိမ်မိသည်ဟု ဆော်ဒီအရေဗျဘုရင် အဗ္ဗဒူလ်အဇီးဇ်က အမေရိကန်သမ္မတ ထရူးမင်းကို စာရေးသားပေးပို့ရာတွင် အမေရိကန်သမ္မတက ပြန်စာပို့သည်မှာ- အမေရိကန်ပြည်ထောင်စုသည် ယခင်အတိုင်း မိမိရပ်တည်ချက်

ပေါ်တွင် မားမားမတ်မတ် ရပ်လျက်ရှိသည်။ ထိုရပ်တည်ချက်မှာ-ပါလက်စတိုင်းတို့အား အုပ်ချုပ်ခွင့်ပေးအပ်မည်ဖြစ်ပြီး ပါလက်စတိုင်းနယ်တွင် ရဟူဒီအခြေချနေထိုင်မှုများကိုလည်း ခွင့်ပြုမည်ဖြစ်သည်။ ထို့ပြင် ၁၉၉၄ ခုနှစ် အောက်တိုဘာ ၂၇ ရက်နေ့တွင် အမေရိကန်သမ္မတ ဘီလ်ကလင်တန် အစ္စရေးနိုင်ငံသို့ အလည်အပတ်လာရောက်ရာ၌ အစ္စရေးပါလီမန်တွင် မိန့်ခွန်းပြောကြားခဲ့သည်မှာ-အသင်တို့ ပျက်သုန်းခြင်းသည် ကျွန်ုပ်တို့ ပျက်သုန်းခြင်းပင်ဖြစ်သည်။ အမေရိကန်သည် ယခုအသင်တို့နှင့်အတူရပ်တည်လျက်ရှိပြီး နောက်နောင်လည်း ဆက်လက်ရပ်တည်သွားမည် ဖြစ်သည်။ ဤကဲ့သို့သော အခြေအနေများတွင် ပါလက်စတိုင်းအရေးသည် အလ္လာဟ်အရှင်မြတ်၏ ကူညီစောင်မမှုရောက်ရှိလာမှသာ ပြေလည်နိုင်မည်ဖြစ်သည်။

## ဗြိတိသျှမှတ်တမ်းမှတ်ရာများတွင် တွေ့ရသောပါလက်စတိုင်းအရေးကိစ္စ

၁၀/၈/၁၈၄၀ တွင် ဗြိတိသျှဝန်ကြီးချုပ် (Palmerston)သည် တူရကီနိုင်ငံဆိုင်ရာ ဗြိတိသျှသံအမတ်ကို စာတစ်စောင် ရေးသားပေးပို့ခဲ့သည်။ ပါလက်စတိုင်းဒေသတွင် မိမိတို့မွေးရပ်မြေ ပြန်လည်ထူထောင်ရန် အချိန်နီးကပ်နေပြီ ဖြစ်ကြောင်း ဥရောပတစ်လွှားရှိ ဂျူးလူမျိုးတို့အတွင်း၌ ခံစားချက်မြင့်မားနေပြီဖြစ်သည်။ ဥရောပရှိဂျူးလူမျိုးတို့သည် ချမ်းသာ ကြွယ်ဝသူများဖြစ်ကြသည်ကို ကောင်းစွာသိရှိကြသည်။ ထို့ကြောင့် အွတ်စ်မာနီဘုရင်၏ ဦးဆောင်ဦးရွက်ပြုမှုနှင့် ထိန်းသိမ်းကာကွယ်ပေးမှုအောက်တွင် ရဟူဒီအမျိုးသားတို့ ပါလက်စတိုင်းဒေသသို့ ပြန်လည်ဝင်ရောက်လာပါက ၎င်း၏အကျိုးရလဒ်အနေဖြင့် မိုဟမ္မဒ်အလီနှင့် သူ၏အရိုက်အရာဆက်ခံသူတို့ ဖန်တီးထား

သည့် အန္တရာယ်များလှသော စီမံကိန်း အကောင်အထည်ဖော်ရေးလမ်းတွင် အဟန့်အတားတစ်ခု ဖြစ်ပေမည်။ တူရကီအစိုးရသည်လည်း ထိုသို့ ပြန်လည်ဝင်ရောက်ရေးကို ပါလက်စတိုင်းအရေးတွင် မိမိအတွက်အကျိုးရှိသည့်ကိစ္စဟု မှတ်ယူမည်ဖြစ်သည်။

သာမန်မျှလောက်သော ဥပဒေတစ်ခုကို ပြဋ္ဌာန်းပေးခြင်းအားဖြင့် မြောက်မြားစွာသောနိုင်ငံတို့၏ ထောက်ခံမှုနှင့် မိတ်ဆွေဖြစ်မှုကို တူရကီတို့ ရရှိနိုင်မည် ဖြစ်သည်ဟု စာထဲတွင်ဖော်ပြထားသည်။ ၁၈၁၆ တွင် ဗြိတိသျှစာရေးဆရာ (Thomas Clark)သည် "အိန္ဒိယနှင့်ပါလက်စတိုင်း" အမည်ရသော မိမိ၏စာအုပ်တွင် ရေးသားခဲ့သည်။ "အကယ်၍ ရဟူဒီအမျိုးသားတို့ကို ပြန်လည် ထူထောင်ပေးပါက မကြာမီ ၎င်းတို့တွင် နိုးကြားမှု၊ တက်ကြွမှုများ ပြန်လည် ဖြစ်ပေါ်လာလိမ့်မည်။ ထို့ပြင် ၎င်း၏အကျိုးအမြတ် အများစုကို ကျွန်ုပ်တို့သာ ရရှိခံစားရမည်ဖြစ်သည်။ အကယ်၍ ဗြိတိသျှတို့အနေဖြင့် ကူးသန်းရောင်းဝယ်ရေးကို မိမိ၏အသက်သွေးကြောအဖြစ် မှတ်ယူ၍ ၎င်း၏ ကူးသန်းရောင်းဝယ်ရေး လမ်းကြောင်းသည် ကမ္ဘာ့တိုက်ကြီး သုံးတိုက်ကို ဖြတ်သန်းသွားလာရသည်ကိုလည်းကောင်း၊ ရဟူဒီဂျူးလူမျိုးတို့သည် အခြေခံအားဖြင့် ကုန်သည်မျိုးရိုးဖြစ် သည်ကိုလည်းကောင်း ကောင်းစွာသိရှိနားလည်ထားပါက မိမိ၏ကူးသန်းရောင်းဝယ်ရေး တိုးတက်ဖွံ့ဖြိုးစေရန်အတွက် ဂျူးလူမျိုးတို့ကို ပါလက်စတိုင်းဒေသတွင် အခြေချနေထိုင်စေခြင်းသည် အလွန်အရေးကြီးသော ကိစ္စရပ်ဖြစ်ကြောင်း ယုံကြည်ထားရမည်။ ထို့နောက် ဂျူးလူမျိုးတို့ကို ၎င်းတို့၏အမျိုးသား နိုင်ငံတည်ထောင်ပေးရမည်။ ကမ္ဘာ့ပေါ်ရှိ မည်သည့်အင်အားစုကမျှ ထိုဒေသကို ၎င်းတို့ လက်ဝယ်မှလုယူနိုင်မည် မဟုတ်ပေ။"

၁၃/၃/၁၉၁၆တွင် ရုရှား၏ ယခင်မြို့တော်ဖြစ်သော (Petrograd) တွင် ရုံးစိုက်သည့် ဗြိတိသျှသံရုံးသည် ရုရှားနိုင်ငံခြားရေးဝန်ကြီးကို စာတစ်စောင် ရေးသားပေးပို့ခဲ့သည်။ စာကို ပေးပို့ရခြင်း၏ ရည်ရွယ်ချက်မှာ ပါလက်စတိုင်းဒေသတွင် ဂျူးလူမျိုးများကို ပြန်လည်အခြေချနေထိုင်စေသော ကိစ္စနှင့် ပတ်သက်ပြီး ရုရှားအစိုးရ၏ သဘောထားကို သိရှိနိုင်ရန်ဖြစ်သည်။ စာထဲတွင် ဗြိတိသျှဘုရင်မင်းမြတ်သည် ပါလက်စတိုင်းဒေသတွင် ရဟူဒီတို့ ပြန်လည်အခြေချနေထိုင်ခြင်းကိစ္စကို အပြည့်အဝအာရုံစိုက်လျက်ရှိသည်။ ထိုအစီအစဉ်အောင်မြင်ခဲ့ပါက အရေးပါသော နိုင်ငံရေးအကျိုးရလဒ်များ ဖြစ်ထွန်းလာမည်ဖြစ်သည်။ ထို့အထဲမှ အကြီးမားဆုံးမှာ-အရှေ့ဥရောပနှင့် အမေရိကရှိ ရဟူဒီတို့ကို မဟာမိတ်များဘက်သို့ တိမ်းညွတ်လာစေရန် စွမ်းဆောင်နိုင်မည်ဖြစ်သည်။

၁/၁၁/၁၉၁၇ တွင် ဗြိတိသျှနိုင်ငံခြားရေးဝန်ကြီး (Balfour)သည် အမေရိကန်ကော်မရှင်ကို စာတစ်စောင်ပေးပို့ခဲ့သည်။ "ဂျူးလူမျိုးတို့ကို ပြန်လည်နေရာချထားရေးနှင့်ပတ်သက်ပြီး လေးနိုင်ငံသည် မိမိတို့၏ ကတိကဝတ်များကို အပြည့်အဝ အကောင်အထည်ဖော်ခဲ့ကြသည်။ ရဟူဒီတို့ မှန်သည်ဖြစ်စေ၊ မှားသည်ဖြစ်စေ၊ ကောင်းသည်ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ ၎င်းတို့သည် ကျွန်ုပ်တို့ယဉ်ကျေးမှု၊ ကျွန်ုပ်တို့လိုအပ်ချက်၊ အနာဂတ်၏ကျွန်ုပ်တို့မျှော်မှန်းချက်များကို ဖြည့်စည်းပေးရန်အတွက် အရေးပါသော အခန်းကဏ္ဍမှ ပါဝင်နေသည်ကို သံသယရှိရန်မလိုပေ။ ထိုဂျူးလူမျိုးတို့သည်အရဗ်တိုင်းပြည် များတွင် ခိုလှုံနေထိုင်သည့် (၇)သိန်းသော ပါလက်စတိုင်းအရဗ်တို့၏ဆန္ဒ၊ မျှော်မှန်းချက်များထက် အဆပေါင်းများစွာ ကျွန်ုပ်တို့အတွက် အရေးပါလှသည်။

၂၀/၄/၁၉၂၀ တွင် မဟာမိတ်နိုင်ငံများအဖွဲ့သည် ပါလက်စတိုင်းကို ဗြိတိသျှအစောင့်အရှောက်ခံအဖြစ် သဘောတူပေးအပ်သောအခါ ထိုအချိန်က ဗြိတိသျှဘုရင်သည် ရဟူဒီတို့ကို သဝဏ်လွှာစကားပါးခဲ့သည်မှာ -မဟာမိတ်နိုင်ငံများအားလုံးသည် တဆင့်ပြီးတဆင့် ပါလက်စတိုင်းဒေသတွင် ရဟူဒီနိုင်ငံတည်ထောင်ပေးရန် ခိုင်ခိုင်မာမာ ဆုံးဖြတ်ချက်ချပြီးဖြစ်သည်။

## အမေရိကန်မှတ်တမ်းမှတ်ရာများတွင် တွေ့ရသောပါလက်စတိုင်းအရေးကိစ္စ

ကျွမ်းကျင်သောပညာရှင်များပါဝင်သည့် အမေရိကန်ကော်မရှင်အဖွဲ့တစ်ဖွဲ့သည် အမေရိကန်သမ္မတ (Wilson) ကို ၁၂/၁/၁၉၁၉ တွင် အစီရင်ခံစာတစ်စောင် တင်ပြခဲ့သည်။ ဗြိတိသျှအစောင့်အရှောက်ခံဖြစ်သော ပါလက်စတိုင်းဒေသတွင် ရဟူဒီတို့အတွက် အမျိုးသားဌာနေ ထူထောင်ပေးရေး၊ ၎င်းနောက် ကမ္ဘာတစ်ဝှမ်းလုံးရှိ ဂျူးတို့အား ထိုနေရာသို့လာရောက် အခြေချနေထိုင်ရန် စည်းရုံးလှုံ့ဆော်ပေးရေး၊ အခြေချနေထိုင်မည့် ရဟူဒီများကို အဘက်ဘက်မှ ကူညီပံ့ပိုးပေးရေးနှင့် ပါလက်စတိုင်းဒေသရှိ ရဟူဒီမဟုတ်သော အခြားတိုင်းရင်းသားများ၏ အခွင့်အရေးများကိုလည်း မထိပါးရေး ကော်မရှင်အနေဖြင့် အကြံပြုတိုက်တွန်းအပ်ပါသည်ဟု ထိုအစီရင်ခံစာထဲတွင် အကျယ်တဝင့်ဖော်ပြထားသည်။

အမေရိကန်ကော်မတီသည် ပါလက်စတိုင်းဒေသ၏ မြေပြင်အခြေအနေ စစ်တမ်းကောက်ယူပြီးနောက် ၁၈/၈/၁၉၁၉ တွင် အစီရင်ခံစာ တင်ပြခဲ့သည်။ "ရဟူဒီမဟုတ်သော ပါလက်စတိုင်းမူလတိုင်းရင်းသားများသည် လူဦး

ရေ၏ ကိုးဆယ်ရာခိုင်နှုန်းရှိသည်။ ထိုသူတို့သည် ရဟူဒီတို့ ပါလက်စတိုင်း ဒေသတွင် ပြန်လည်အခြေချရေးကို လုံးဝလက်ခံမည် မဟုတ်ပေ။ ရဟူဒီတို့အား မလိုမုန်းထားမှုသည် ပါလက်စတိုင်းဒေသတွင်သာ ရှိနေသည်မဟုတ်ပေ။

ဗြိတိသျှအရာရှိ အားလုံးတို့၏အယူအဆမှာလည်း ဇီယွန်ဝါဒီ ရဟူဒီတို့၏အစီအစဉ်သည် စစ်အင်အားဖြင့်သာ အကောင်အထည် ဖော်နိုင်မည် ဖြစ်သည်။ ထိုစစ်အင်အားသည်လည်း စစ်သား ၅ သောင်းထက် နည်း၍ မဖြစ်နိုင်ပေ။ ထိုယူဆချက်အရ ရဟူဒီတို့၏အစီအစဉ်ကို အကောင်အထည် ဖော်ရာတွင် မူလတိုင်းရင်းသားများဖြစ်သော ပါလက်စတိုင်းပြည်သူများ၏ အခွင့်အရေးများသည် ပေါ်ပေါ်တင်တင် ချိုးဖောက်ခံရမည်ဖြစ်သည်။

ထို့ကြောင့် မတရားသောထိုဆုံးဖြတ်ချက်ကို အကောင်အထည်ဖော်ရန်အတွက် စစ်တပ်စေလွှတ်ခြင်းသည် အရေးကြီးသည်ဟု ၎င်းတို့ကခံယူထားသည်။ အခြားတစ်ဖက်တွင်လည်း ရဟူဒီတို့က ၎င်းတို့သည် ပါလက်စတိုင်းဒေသတွင်နှစ်ပေါင်း နှစ်ထောင်ကတည်းက နေထိုင်လာခဲ့သည်ဆိုသည့် အချက်ကို ကြွေးကြော်နေခြင်းဖြစ်သည်။ ထိုကြွေးကြော်ချက်သည် အလေးပေးရမည့် ကိစ္စမဟုတ်ချေ။ ပါလက်စတိုင်းကို ရဟူဒီနိုင်ငံ ထူထောင်ပေးချင်သောသူများသည် ၎င်းမှ ဖြစ်ပေါ်လာမည့် အကျိုးဆက်ကို မှန်မှန်ကန်ကန် မသုံးသပ်နိုင်သည်သာမက ပါလက်စတိုင်းဒေသတွင် ရဟူဒီတို့အား ဆန့်ကျင်ရန်လိုနေသည့် အခြေအနေများကိုလည်း ခန့်မှန်းနိုင်ကြခြင်းမရှိပေ။ အထူးသဖြင့်ပါလက်စတိုင်းဒေသကို မြင့်မြတ်သောနယ်မြေအဖြစ် သတ်မှတ်တန်ဖိုးထားသည့်ကြီးမားလှသော အုပ်စုကြီးတစ်စုသည် ကမ္ဘာတစ်ဝှမ်းလုံးတွင် ပျံ့နှံ့နေထိုင်လျက်ရှိသည်။

၎င်းတို့ ဆန့်ကျင်အုံကြွလာမည့် အခြေအနေကို မှန်ကန် တိကျစွာ သုံးသပ်နိုင်ကြမည် မဟုတ်ပေ။ ထို့ကြောင့် ပါလက်စတိုင်းဒေသသို့ ရဟူဒီများ ပြောင်းရွှေ့အခြေချမှုကို သေချာခိုင်မာအောင် ပြုပေးရမည်ဖြစ်ပြီး ပါလက်စတိုင်းကို ရဟူဒီနိုင်ငံတော်အဖြစ် ထူထောင်ပေးမည့် အစီအစဉ်ကိုမူ လုံးဝ ရှောင်ကြဉ်သင့်သည်ဟု" အစီရင်ခံစာတွင် ဖော်ပြထားသည်။

၁၆/၃/၁၉၄၄ တွင် အမေရိကန်သမ္မတ(Roosevelt)မိန့်ခွန်းတစ်ခုတွင် ပြောကြားခဲ့သည်မှာ- "ဥရောပတွင် ခိုလှုံနေရသော ရဟူဒီတို့ကို ပါလက်စတိုင်းဒေသသို့ ဝင်ရောက်နိုင်ရန် လမ်းဖွင့်ပေးနိုင်ခဲ့သည့်အတွက် ကျွန်ုပ် အလွန်ဝမ်းမြောက် ဂုဏ်ယူမိပါသည်။ ရဟူဒီအမျိုးသားနိုင်ငံ တည်ထောင် ပေးရန် စိတ်ပြင်းပြနေသော သူများအတွက် အနာဂတ်တွင် အရေးကြီးသော ဆုံးဖြတ်ချက်များချမှတ်သည့်အခါ တရားမျှတမှုကိုရစေပါမည်။ ကျွန်ုပ်တို့အစိုးရနှင့် ပြည်သူအပေါင်းသည် ထိုအချက်ကို ယခင်ကတည်းက ခံစားမိနေခဲ့ပြီး ယခုအချိန်တွင် ထိုခံစားချက်သည် ပို၍ မြင့်မားလျက်ရှိနေပါသည်။"

ဥရောပရှိ ရဟူဒီဆိုင်ရာ အရေးကိစ္စများနှင့်ပါလက်စတိုင်းအရေးကို လေ့လာသုံးသပ်နိုင်ရန် အင်္ဂလိပ်-အမေရိကန် ကော်မတီတစ်ရပ်ဖွဲ့စည်းခဲ့ သည်။ ထိုကော်မတီသည် ၁၉၄၅ ဒီဇင်ဘာလတွင် အကြံပြုချက်များ တင်သွင်း ခဲ့သည်။ ထိုအကြံပြုချက်များမှာ -နာဇီဂျာမနီနှင့်ဖက်ဆစ်ဝါဒီတို့၏ မတရားပြု ခြင်းခံရသော ဥရောပရှိရဟူဒီတို့အား ပါလက်စတိုင်းဒေသသို့ အမြန်ဆုံးဝင်ခွင့် ပြုပေးရမည်။ ထိုအချက်ကို အကောင်အထည်ဖော်ရန် အမေရိကန်နှင့် ဗြိတိန် တို့သည် ကောင်းစွာလုပ်ဆောင်နိုင်စွမ်းရှိကြသည်။ပါလက်စတိုင်းကို ဂျူးနှင့် အရဗ်ဟူ၍ သီးခြားနိုင်ငံတစ်ခုစီ မပြုလုပ်ဘဲထိုဒေသရှိ ရဟူဒီ၊ ခရစ်ယာန်နှင့်

မွတ်စ်လင်မ်တို့၏ အခွင့်အရေးများကို အပြည့်အဝ ကာကွယ်ပေးရန် ဖြစ်သည်။

ပါလက်စတိုင်းကို မိမိတို့၏မွေးရပ်မြေ၊ မူလဌာနေအဖြစ် ရဟူဒီတို့ ယူဆကြသော်လည်း ၎င်းတို့၏လူဦးရေမှာ နည်းပါးလွန်းလှသည်။ ရဟူဒီ နိုင်ငံတော်ထူထောင်ရေးသည် ၎င်းတို့၏မျှော်မှန်းချက်ဖြစ်သည်မှာ ငြင်းမရသော အမှန်တရားတစ်ခုဖြစ်သည်။ သို့သော် ပါလက်စတိုင်းဒေသသည် ရဟူဒီတို့သာပိုင်ဆိုင်သည့် နယ်မြေမဟုတ်သည့်အပြင် အနာဂတ်တွင်လည်း ဖြစ်လာနိုင်လိမ့်မည်မဟုတ်ပေ။ ယင်းဒေသသည် အရဗ်ကမ္ဘာ၏ တံခါးဝတွင် တည်ရှိပြီး အရဗ်တို့၏ဘိုးဘွားဘီဘင်တို့သည် ရှေးပဝေသဏီကတည်းက နေထိုင်လာခဲ့သော မူလတိုင်းရင်းသားများ ဖြစ်ကြသည်။ ထို့ကြောင့်ပင် အရဗ်တို့သည် ပါလက်စတိုင်းဒေသကို မိမိတို့၏မူရင်းဌာနေတစ်ခုအဖြစ် သတ်မှတ်ကြသည်။

အရဗ်နှင့်ရဟူဒီတို့အား ရှင်းလင်းပြတ်သားစွာ ပြောကြားရမည်မှာ- "အကယ်၍ အသင်တို့ထဲမှ အုပ်စုတစ်အုပ်စုသည် အကြမ်းဖက်လမ်းစဉ်ကို ရွေးချယ်မည် (သို့မဟုတ်) တရားမဝင်စစ်တပ် တည်ထောင်မည်ဆိုပါက ချေမှုန်းခြင်းခံကြရမည်။ ဆော်ဒီဘုရင်အဗ်ဒွလ်အဇီးဇ်သည် ပါလက်စတိုင်းအရေးနှင့် ပတ်သက်၍ အမေရိကန်၏ရပ်တည်ချက်ကို စိုးရိမ်သဖြင့် အမေရိကန်သမ္မတ ထရူးမင်းအား စာရေးသားပေးပို့ကာ မေးမြန်းခဲ့သည်။ အမေရိကန်ပြည်ထောင်စုသည် ယခင်အတိုင်းထားရှိသော သဘောထားပေါ်၌ မယိမ်းမယိုင် ရပ်တည်လျက်ရှိသည်။ ထိုရပ်တည်ချက်မှာ-ပါလက်စတိုင်း ပြည်သူတို့

အား အုပ်ချုပ်ခွင့်ပေးခြင်းဖြစ်ပြီး ရဟူဒီတို့ကိုလည်း ပြောင်းရွှေ့အခြေချ ခွင့်ပေးခြင်း ဖြစ်သည်ဟု အမေရိကန်သမ္မတက အကြောင်းပြန်ခဲ့သည်။

၂၄/၂/၁၉၅၇ တွင် ကျင်းပပြုလုပ်သော ဂျူး-ခရစ်ယာန်ကွန်ဖရင့်တွင် အမေရိကန်သမ္မတ ဂျွန်ကနေဒီ မိန့်ခွန်းပြောကြားရာတွင်-"အရဗ်နှင့် ရဟူဒီတို့သည် မိတ်ဆွေများသဖွယ်သဘောထားကာ အတူယှဉ်တွဲနေထိုင်ကြပြီး ထိုသို့နေထိုင်ခြင်းကြောင့် မိမိတို့အုပ်စုဝင်လူများ၏ ကဲ့ရဲ့ပြစ်တင်မှုကို သည်းခံမြိုသိပ်ကြမည်၊ စစ်ခင်းနေသည့်လမ်းကို နှစ်ဖက်စွန့်လွှတ်ကြပြီး လုံ့လဝီရိယများနှင့် ဥစ္စာဓနများကိုပါလက်စတိုင်းဒေသ တည်ထောင်ရေးလုပ်ငန်းများ၌ အသုံးပြုကြမည်၊ ထို့ပြင် အစ္စရေးသည် အရှေ့အလယ်ပိုင်းဒေသတွင် ထွက်ပေါ်နေသော လင်းရောင်ခြည်တစ်ခု ဖြစ်သည်ကို ကျွန်ုပ်အပြည့်အဝ ယုံကြည်သည်ဟု ထည့်သွင်းပြောကြားခဲ့သည်။

၁၉၉၄ အောက်တိုဘာ ၂၇ ရက်နေ့တွင် အမေရိကန် သမ္မတ ဘီလ်ကလင်တန် အစ္စရေးသို့လာရောက် လည်ပတ်သည့်အခါ အစ္စရေးပါလီမန်တွင် မိန့်ခွန်းပြောကြားခဲ့သည်မှာ-“အသင်တို့ ပျက်သုန်းမှုသည် ကျွန်ုပ်တို့၏ ပျက်သုန်းမှုပင် ဖြစ်သည်။ အမေရိကန်ပြည်ထောင်စုသည် ယခုလည်းအသင်တို့နှင့် အတူရှိပြီးနောင်လည်း ရှိနေလိမ့်မည်ဖြစ်သည်။”

## လိုအပ်နေသော အီမာန်အင်အား

ယခု မီဒီယာလောကအပေါ် ရဟူဒီတို့၏ အပြည့်အဝထိန်းချုပ်မှုရှိသည်။ ကမ္ဘာ့မီဒီယာများ၏ ကျော်ကြားသောမဂ္ဂဇင်း၊ စာစောင်တို့သည် ရဟူဒီမီဒီယာ၏ လက်အောက်ခံသဖွယ် ဖြစ်လျက်ရှိသည်မှာ ယုံမှားသံသယ ဖြစ်ဖွယ်လုံးဝမရှိပေ။ ထို့ကြောင့်ပင် ရဟူဒီတို့အား ဆန့်ကျင်ဝေဖန်သည့် အကြောင်းအရာတစ်ခုခုကို ကမ္ဘာ့မီဒီယာများတွင် ရေးသားဖော်ပြခွင့် မပြုသည်က များလှသည်။ ဖော်ပြခွင့်မပြုသည့် အကြောင်းအရင်းကို တခါတရံ ဖော်ပြလေ့ရှိသော်လည်း များသောအားဖြင့် ရေးသားခွင့်မပြုသည့် အကြောင်းတရားကို မဖော်ပြဘဲ နှုတ်ဆိတ်နေသည်ကများသည်။

သတင်းစာ၊စာစောင်၊မဂ္ဂဇင်းများသည် မိမိတို့ကိုယ်ကို အမေရိကန်၏နောက်လိုက်မဟုတ်ဘဲ သတင်းများကိုလွတ်လပ်စွာ ရေးသားဖော်ပြသည်ဟုကြွေးကြော်ကြသော်လည်း လက်တွေ့တွင်မူ အမေရိကန်မီဒီယာ၏ သတင်းများကိုသာလျှင် ဝေဝေဆာဆာ ဖော်ပြကြသည်ကများသည်။ အမေရိကန်မီဒီယာ ကိုယ်တိုင်ပင်လျှင် ရဟူဒီတို့၏ထိန်းချုပ်မှုအောက်၌ရှိသည့်အပြင် အမေရိကန် စီးပွားရေးကိုလည်း ရဟူဒီတို့ပင် ထိန်းချုပ်ထားသည်။ ရဟူဒီတို့သည်မီဒီယာနှင့်စီးပွားရေးအားဖြင့် အင်အားကြီးနိုင်ငံတို့ကို မိမိတို့လက်ဝယ် အပိုင်ချုပ်ကိုင်ထားသည်။ ထို့ကြောင့်ပင် ကျွန်ုပ်တို့သည် ကမ္ဘာကြီး၏ အခြေအနေမှန်ကို သိခွင့်မရပေ။

၂၀၀၉ ခုနှစ်တွင် ဖြစ်ပွားခဲ့သော အစ္စရေး၏ဂါဇာဒေသ ကျူးကျော်စစ်တွင်လည်း ပါလက်စတိုင်းတို့သာလျှင် မတရားပြုသူများအဖြစ် မီဒီယာလောကတွင် သမုတ်ခြင်းခံရသည်။ ပါလက်စတိုင်းတို့၏ အသက်ဆုံးရှုံးမှုသည်

တစ်ထောင်ထက်ပိုပြီး ရဟူဒီတို့မှာ ၁၃ ဦးသာလျှင် ဆုံးရှုံးသည်ကို ကြည့်လျှင် မတရားအနိုင်ကျင့်သူမည်သူဖြစ်ပြီး အနိုင်ကျင့်ခံရသူမည်သူဖြစ်သည်ကို လူတိုင်းသုံးသပ်နိုင်သည်။ စစ်ပွဲကြောင့် ပါလက်စတိုင်းတို့၏ အိုးအိမ် စည်းစိမ် များ အကြီးအကျယ် ပျက်စီးခဲ့ရသည်။ ထိုသတင်းကိုလည်း ကမ္ဘာမီဒီယာ များက အနည်းအကျဉ်းသာ ဖော်ပြခဲ့ကြသည်။

အအေးဒဏ်ပြင်းသော ဆောင်းရာသီဖြစ်သောကြောင့် အိုးအိမ်များ ဖျက်စီးခံလိုက်ရသည့် ပါလက်စတိုင်းသားတို့သည် နေစရာမရှိဘဲ အလွန်ဒုက္ခ ရောက်ကြရသည်။ အရဗီသတင်းစာများ၏ ဖော်ပြချက်အရ အေးလွန်းလှသည့် ဆောင်းလေတိုက်ခတ်မှုကို ကာကွယ်နိုင်ရန် အချို့သည် မိမိတို့၏ဟောင်း လောင်းပေါက်ဖြစ်နေသည့် တံခါးများ၊ ပြတင်းပေါက်များကို ကတ္တူစက္ကူများ ဖြင့် ပိတ်နေရသည့် အခြေအနေမျိုး ရောက်ရှိနေသည်ဟု သိရှိရသည်။ ထို သတင်းကို ကမ္ဘာ့မီဒီယာများက မဖော်ပြကြပေ။

ထို့ပြင် ယခုအချိန်ကြားသိနေရသော သတင်းများမှာ ပို၍စိုးရိမ် စရာ ကောင်းလှသည်။ အက်ဆွာဗလီ တည်တံ့ရေးအတွက် အလွန်စိုးရိမ်စရာ ကောင်းသောအခြေအနေ ဖြစ်နေသည်။ အက်ဆွာကျောင်းတော်အား ဖြိုချပြီး ဟိုင်ကလ်ဆိုလိုင်မာနီ (ခေါ်) ရဟူဒီဘုရားကျောင်းတည်ဆောက်ရန် ရဟူဒီတို့ အကြံအစည်အမျိုးမျိုး ထုတ်လျက်ရှိသည်။ တစ်ခါတစ်ရံ ရှေးဟောင်း သုတေ သန ခေါင်းစဉ်တပ်ပြီး အက်ဆွာဗလီ၏အောက်ကို တူးဖော်သည်။ တစ်ခါ တစ်ရံ မွတ်စ်လင်မ်တို့ကို ဗလီတွင်နမားဇ်မဖတ်ရဟု တားမြစ် သည်။ မွတ်စ်လင်မ်တို့အား ဗလီထဲဝင်ခြင်းမှတားကာ ယဟူဒီတို့ အတင်းအဓမ္မ ဗလီ

ထဲသို့ ဝင်ရောက်၍ ဗလီအား ရိုသေသမှုကင်းမဲ့စေသည့် လုပ်ရပ်များလုပ်ကြသည်။

ထို့မတိုင်ခင်ကပင် ဗလီကြီးအားမီးတင်ရှို့ရန် ကြံစည်ကြိုးပမ်းခဲ့သဖြင့် ကမ္ဘာတစ်ဝန်းလုံးမှ မွတ်စ်လင်မ်များ အပြင်းအထန် ကန့်ကွက်ခဲ့ကြသည်။ အက်ဆွာဗလီကိစ္စသည် အရဗ်တို့နှင့်သာ သက်ဆိုင်သည့် ကိစ္စမဟုတ်ပေ။ ကမ္ဘာတစ်ဝှမ်းလုံးရှိ မွတ်စ်လင်မ်တို့ အရေးဖြစ်သည်။ ပါလက်စတိုင်းဒေသအရေးသည် အရဗ်တို့အရေး ဖြစ်သည်ဟု ပြောမည်ဆိုက ပြောနိုင်သည်။ ၎င်းအရေးတွင် အရဗ်တို့၏ပေါ့ဆမှုသည် အဓိကအခန်းကဏ္ဍမှ ပါဝင်သည်။

အဘယ်ကြောင့်ဆိုသော် ရဟူဒီတို့၏အစ္စရေးနိုင်ငံသည် ဒီအတိုင်းဖြစ်ထွန်းလာသည်မဟုတ်။ အမှန်စင်စစ် ရဟူဒီတို့၏ ပရိယာယ်၊ အကြံအစည်၊ ဥာဏ်နီဥာဏ်နက်များမှုသည် ထင်ရှားကျော်ကြားသော်ငြားလည်း သမိုင်းတလျှောက် ထိုအရာများသည် ၎င်းတို့အား ကြီးကြီးမားမား အကျိုးဖြစ်ထွန်းစေခဲ့သည်မရှိခဲ့ပေ။ မည်သည့်အခါမျှ အခြားအမျိုးသားများအပေါ် စိုးမိုးအုပ်ချုပ်ခဲ့ရသည်ဟု မရှိခဲ့ယုံမက သမိုင်းတလျှောက် ကိုယ်ပိုင်နေရာမရှိဘဲ နိုင်ငံမဲ့ဘဝဖြင့် နေခဲ့ရသည့် အချိန်ကာလသည် များပြားခဲ့သည်။ လောက၏ မည်သည့်နေရာတွင်မှ ၎င်းတို့သည် ဂုဏ်သိက္ခာကို မရရှိခဲ့ပေ။ အကယ်၍ တစ်ပါးသူအား လိမ်လည်လှည့်ဖျားခြင်းဖြင့်သာ အောင်မြင်မှုရနိုင်မည်ဆိုလျှင် လိမ်လည်လှည့်ဖျားသူသည် အမြဲတစေ အောင်မြင်မှု ရနေလိမ့်မည်ဖြစ်သည်။

ထိုကဲ့သို့ ဖြစ်မည်မဟုတ်ကြောင်းကိုကုရ်အာန်ကျမ်းတော်မြတ်တွင် အလ္လာဟ်အရှင်မြတ်က ဤကဲ့သို့ အတိအလင်း အမိန့်ရှိထားပေသည်။

"ထို့ပြင် ၎င်းတို့သည်မိမိတို့၏ လျှို့ဝှက်ကြံစည်မှုကို ကြံစည်ခဲ့ကြလေသည်။ စင်စစ်သော်ကား ၎င်းတို့၏လျှို့ဝှက်ကြံစည်မှုသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်၌ပင် ရှိခဲ့လေသည်။ အမှန်စင်စစ်မှာမူကား ၎င်းတို့၏ လျှို့ဝှက်ကြံစည်မှုသည် ယင်းကြံစည်မှုကြောင့် တောင်များပင် ရွေ့သွားနိုင်ကြပေသည်။" (စူရဟ်အစ်ဗ်ရာဟီးမ်၊ အာယတ်တော် ၄၆)

ဗြိတိသျှသည် အလွန်ပရိယာယ်များသော နိုင်ငံဖြစ်ကြောင်း ကျော်ကြားလှသည်။ သို့သော် လက်ရှိ ၎င်းသည် စကော့တလန်၊ အိုင်ယာလန်နှင့် အင်္ဂလန်ဟူ၍ သုံးပိုင်းကွဲသွားမည့် အန္တရာယ်နှင့် ရင်ဆိုင်နေရသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့အချင်းချင်းကြားတွင် လွန်ဆွဲမှုပြင်းထန်နေပြီး ရန်ငြိုးနှင့် ဒေသအစွဲက ကြီးမားလှသည်။ ဒေသတစ်ခုမှ ဒေသတစ်ခုသို့ သွားရာတွင် ရောက်ရှိသောနေရာ၌ မိမိ၏မူရင်းဒေသကို မထုတ်ဖော်ရဲပေ။ အကြောင်းမှာ မိမိ၏မူရင်းဒေသကို ပြောဆိုမိပါက ထိုနေရာတွင် တန်းတူအခွင့်အရေး ပေးခြင်းမခံရမည်ကို စိုးရိမ်သောကြောင့်ဖြစ်သည်။ ထို့အတူ ၎င်း၏စီးပွားရေးမှာ အလွန်တရာ ချည့်နဲ့လျက်ရှိသည်။ ဗြိတိန်တွင်ရှိသော အရဗ်တို့၏ ရင်းနှီးမြှုပ်နှံမှုများကို ရုပ်သိမ်းခဲ့မည်ဆိုပါက ၎င်း၏စီးပွားရေးသည် ပြိုလဲနိုင်စရာ အကြောင်းရှိနေသည်။

ထို့ပြင် ကမ္ဘာ့စာမျက်နှာတွင် ဗြိတိန်၏နိုင်ငံရေးဩဇာအရှိန်အဝါ ကျဆင်းလျက်ရှိသလို လူမှုရေးရှုထောင့်အရ ကြည့်မည်ဆိုပါကလည်း အကျင့်စာရိတ္တ ပျက်ယွင်းမှုသည် နိုင်ငံအတွင်း၌ အထွတ်အထိပ်သို့ ရောက်ရှိနေသည်။ ထိုအချက်များအရ ပရိယာယ်များသော လူမျိုးများသည် ခေတ္တခဏသာ အောင်မြင်မှုကို မြင်ကြရပြီး ထိုအောင်မြင်မှုသည် ၎င်းတို့အတွက် အခွန့်ရှည်

တည်တံ့ခြင်းမရှိသည်ကို သိမြင်နိုင်ပေသည်။ ရဟူဒီတို့ အစ္စရေးနိုင်ငံ ထူထောင် နိုင်ခြင်းတွင် အကြောင်းအရင်းများစွာရှိသည့်အနက် တစ်ချက်မှာ ကမ္ဘာ့အင်အားကြီးနိုင်ငံအချို့သည် အရဗ်တို့အား မည့်သည့်နည်းလမ်းနှင့်မျှ မလုပ်သာအောင်ပြုထားပြီး ရဟူဒီတို့ကိုမူ အပ,စားပေး၍ အဘက်ဘက်မှ ကူညီပြီး ယခုအချိန်အထိ ကာကွယ် စောင့်ရှောက် ပေးနေသောကြောင့်ဖြစ်သည်။

အစ္စရေးတို့အင်အားသည် အရဗ်တို့နှင့်ယှဉ်လျှင် သာလွန်သောကြောင့် အောင်မြင်မှုများ ရရှိနေခြင်းဖြစ်သည်ဟု ယူဆပါက ထိုယူဆချက်သည် မှားယွင်းမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အစ္စရေးတို့ တိုက်ခဲ့သော စစ်ပွဲများကို လေ့လာသုံးသပ်ကြည့်ပါက ၎င်း၏ပြိုင်ဘက်သည် စစ်မတိုက်တော့ဘဲ အရှုံးပေးခဲ့သော တိုက်ပွဲများ၌သာ အောင်မြင်မှုရရှိခဲ့သည်ကို မြင်နိုင်သည်။ အင်္ဂလိပ်စာရေးဆရာတစ်ဦးက ၁၉၄၈ တွင် အစ္စရေးနိုင်ငံ ပေါ်ပေါက်လာပုံကို ရေးသားသည်မှာ-

> ထိုအချိန်က ပါလက်စတိုင်းဒေသသည် ဗြိတိသျှ လက်အောက်တွင်ရှိပြီး ရဟူဒီတို့အင်အားမှာလည်း နည်းပါးလှသည်။ ဗြိတိသျှအစိုးရက အရဗ်တို့ကို ထိန်းချုပ်နိုင်ရန် အရဗ်တို့ အလယ်တွင် အစ္စရေးနိုင်ငံ ထူထောင်မည် ဖြစ်ကြောင်းဆုံးဖြတ်ခဲ့သည်။ ဗြိတိသျှတို့၏ ပေါ်လစီတစ်ရပ်မှာ မိမိတို့ထွက်ခွာခဲ့ရသော နေရာများတွင် ပြဿနာ တစ်စုံတစ်ရာ ချန်ထားရစ်ခဲ့ခြင်းဖြစ်သည်။ နောင်တချိန် ခေါင်းစဉ် အမျိုးမျိုးတပ်၍ ထိုနေရာသို့ အကြိမ်ကြိမ် လာရောက်စွက်ဖက်နိုင်ရန်ဖြစ်သည်။ ဥပမာအနေဖြင့် ပြောရပါက ပုဂ္ဂိုလ်တစ်ဦးသည် မိမိ၏ အိမ်ကို

ရောင်းချရာတွင် ဝယ်သူအားပြောသည်မှာ -အိမ်တစ်ခုလုံးသည် ခင်ဗျားပိုင် ဖြစ်မည်။ သို့သော် အိမ်၏အခန်းတစ်ခန်းတွင် အဝတ်ချိတ်ရန် ချိတ်တစ်ခုရှိသည်။ ထိုချိတ်ကို ကျွန်ုပ်အားပိုင်ဆိုင်ခွင့် ပေးရမည်။ ကျွန်ုပ်ကြိုက်သည့်အချိန် လာရောက် အသုံးပြုခွင့် ပေးရမည်။ ဝယ်သူက ချိတ်တစ်ခုသည် ပြဿနာမဟုတ်ဟု ယူဆကာ ခွင့်ပြုပေးလိုက်သည်။ ထို့နောက် ရောင်းသူသည် ဒုတိယ၊ တတိယနေ့တိုင်း အိမ်သို့လာကာ ဝယ်သူအား ကျွန်ုပ်၏ချိတ်ကို ကြည့်ခွင့်ပေးပါ၊ ထိုချိတ်တွင် ကျွန်ုပ်၏အင်္ကျီချိတ်မည်ဟု အမြဲတစေလာရောက် ပြောပြောဆိုဆိုနေသောကြောင့် နောက်ဆုံး ဝယ်သူသည် စိတ်အပျက် ကြီးပျက်ကာ မလွှဲမရှောင်သာ ၎င်းအားအိမ်ကို ပြန်ပေးလိုက်ရတော့သည်။ ထိုနည်းတူ ဗြိတိသျှတို့သည်လည်း မိမိတို့ကိုလိုနီပြုခဲ့ရာ ဒေသတိုင်းတွင် အကြိမ်ကြိမ်လာရောက် ခြယ်လှယ်နိုင်ရန် အရှုပ်အထုပ် တစ်ခုခုထားခဲ့ကြသည်။ ကိုလိုနီပြုခဲ့ရာဒေသတွင် ၎င်းထား ခဲ့သောအရာများကို ဖယ်ရှားပစ်ပြီး ၎င်းကိုထိုနေရာမှ အပြီးအပိုင် မောင်းထုတ်နိုင်သောသတ္တိမျိုး ကိုလိုနီပြုခံခဲ့ရသော အမျိုးသားများတွင် မရှိပေ။ အကယ်၍ ထိုသတ္တိမျိုး မွတ်စ်လင်မ်တိုင်း ပြည်များ၊ အစ္စရေး၏ ဒုက္ခပေးမှုကိုခံနေရသော အရဗ်နိုင်ငံများတွင် ရှိလာခဲ့မည်ဆိုလျှင် ယဟူဒီတို့၏ အစ္စရေးနိုင်ငံသည် ကမ္ဘာ့မြေပေါ်ရပ်တည်ရန် ခက်ခဲသွားမည်ဖြစ်သည်။

၁၉၄၈ အရဗ်-အစ္စရေးစစ်ပွဲနှင့်ပတ်သက်၍ အင်္ဂလိပ်သမိုင်း ပညာရှင်တစ်ဦးကရေးသားထားသည်မှာ_ထိုအချိန်က အစ္စရေးတွင် စစ်အင်အားသည် မယ်မယ်ရရမရှိပေ။ အစ္စရေးနှင့်ယှဉ်ပြိုင်တိုက်ခိုက်နေသည်မှာ အရဗ်နိုင်ငံ ငါး

နိုင်ငံ ဖြစ်သည်။ သို့သော် ယှဉ်ပြိုင်တိုက်ခိုက်မှုသည် အပေါ်ယံသာဖြစ်ပြီး လက်တွေ့မှာမူ အစ္စရေးကို တိုက်ခိုက်ခြင်းမပြုရဟု အထက်အရာရှိများက မိမိတို့လက်အောက်ရှိ အရဗ်စစ်သည်များကို အမိန့်ထုတ်ထားသည်။ နောက်ပိုင်းတွင် မိုဂျာဟစ်ဒ် စစ်သည်တော်အချို့သည် အပျော်တမ်းတပ်သားများအဖြစ် အစ္စရေးတို့ကို ရင်ဆိုင်တိုက်ခိုက်လာသည့်အခါ အစ္စရေးတို့အတွက် စိုးရိမ်ရသည့်အခြအနေသို့ ရောက်သွားသည်။ ထို့ကြောင့် အရဗ်စစ်တပ်၏ စစ်ဗိုလ်ချုပ်များဖြစ်သော အနောက်တိုင်းသားတို့က မိမိတို့လက်အောက်ရှိ အရာရှိစစ်သည်များအား ချက်ချင်းစစ်မြေပြင်မှ ဆုတ်ခွာရန်နှင့် အထက်အမိန့် မနာခံသောသူများကို ပစ်သတ်ရန် အမိန့်ထုတ်ပြန်ခဲ့သည်။

၁၉၆၇ အရဗ်-အစ္စရေးစစ်ပွဲသည်လည်း ထိုနည်းလည်းကောင်းပင်ဖြစ်သည်။ လှည့်ဖျားခြင်းအပေါ် လှည့်ဖျားခြင်း ထပ်နေသည်။ အစိုးရခေါင်းဆောင်များ၊ စစ်သားများ၊ ဗိုလ်ချုပ်ကြီးများ အားလုံးလိုလိုသည် သစ္စာဖောက်ခဲ့ကြသည်။ အရဗ်စစ်တပ်၏ ဗိုလ်ချုပ်ကြီးများအနက်မှ အများစုသည် ဗြိတိသျှနှင့် ပြင်သစ်များဖြစ်ကြသလို စစ်တပ်အကြံပေးများသည်လည်း အနောက်တိုင်း ဥရောပသားများဖြစ်ကြသည်။ ၎င်းတို့သည် အစ္စရေးတို့အား တိုက်ချင်စိတ်မရှိဘဲ အစိုးရအမိန့်ကြောင့်သာ တိုက်ခဲ့ရသည်။ ထို့ကြောင့် အရဗ်တို့သည် စစ်သည်အင်အားအရ အစ္စရေးတို့ထက်များစွာသာလွန်သော်လည်း နောက်ဆုံး အရှုံးကိုရင်ဝယ်ပိုက်ခဲ့ရသည်။

အရဗ်တို့စစ်ရှုံးရခြင်းသည်အချင်းချင်းညီညွတ်မှုမရှိခြင်းနှင့်အချင်းချင်း သစ္စာဖောက်ခြင်းတို့ကြောင့်ဖြစ်သည်ဟု ထိုအင်္ဂလိပ်သမိုင်းပညာရှင်က ရေးသားခဲ့သည်။ ထို့ကြောင့် စစ်ပြီးသောအခါ အရဗ်နိုင်ငံအချို့တွင် ပုန်ကန်မှု

အာဏာသိမ်း ပုန်ကန်မှုများဖြစ်ပေါ်ခဲ့သည်။ အီဂျစ်နိုင်ငံတွင် ၁၉၅၂ ခုနှစ်မှ စကာ နိုင်ငံတော် အာဏာသိမ်းယူမှု ဖြစ်ပွားခဲ့သည်။ အာဏာသိမ်းယူမှု ဖြစ်ပေါ်စေသည့် အခြေခံအကြောင်းအရင်းမှာ-ကျွန်ုပ်တို့သည် သစ္စာဖောက်ခြင်းခံရသည်။ အသုံးမဝင် သည့် လက်နက်များကြောင့် စစ်ရှုံးရသည်။ ကျွန်ုပ်တို့ကို ပျက်စီးပြီး အသုံးပြု မရသည့်လက်နက်များသာပေးခဲ့သည်။ အစ္စရေးအား တိုက်ခိုက်ခြင်းမှ ကျွန်ုပ်တို့သည် တားမြစ်ခံရသည်ဟု အာဏာသိမ်းသည့် အုပ်စုက ကြွေးကြော်ခဲ့သည်။

၁၉၄၈ တွင် ပထမအရပ်-အစ္စရေးစစ်ပွဲ၊ ၁၉၅၆ တွင် ဒုတိယ အရပ် - အစ္စရေးစစ်ပွဲ ဖြစ်ပွားခဲ့သည်။ အီဂျစ်သမ္မတ ဂျမာလ်းအဗ်ဒွန်နာဆေ့ရ်သည် စူးအက်တူးမြောင်းကို ပြည်သူပိုင်ပြုလုပ်လိုက်သည့်အခါ အစ္စရေး၊ ပြင်သစ်နှင့် အင်္ဂလန်တို့သည် အီဂျစ်နိုင်ငံအားကျူးကျော်တိုက်ခိုက်တော့သည်။ ထိုအခါ အီဂျစ်နိုင်ငံသည် အန္တရာယ်စက်ကွင်းထဲသို့ ကျရောက်သွားသည်။ အီဂျစ်သည် တတ်စွမ်းသရွေ့ ကျူးကျော်စစ်ကို အပြင်းအထန် ခုခံကာကွယ်ခဲ့သည်။ ထိုစစ်ပွဲကြောင့်ပင် ဂျမလ်အဗ်ဒွန်နာဆေ့ရ်သည် သူရဲကောင်းဖြစ်လာခဲ့သည်။ နောက်ဆုံးတွင် အင်အားကြီးနှစ်နိုင်ငံဖြစ်သော ဆိုဗီယက်ပြည်ထောင်စုနှင့် အမေရိကန်ပြည်ထောင်စုတို့သည် ထိုကိစ္စကို ဝင်ရောက်ဖျန်ဖြေခဲ့ပြီး နှစ်ဖက်စစ်တပ်တို့ကို စစ်မြေပြင်မှ ရုပ်သိမ်းစေခဲ့သည်။ စစ်ပွဲအတွင်းတွင် အစ္စရေးသည် အင်္ဂလန်၊ ပြင်သစ်တို့၏ အကူအညီဖြင့် အီဂျစ်နိုင်ငံအတွင်းပိုင်းအထိ ထိုးဖောက်ဝင်ရောက်နိုင်ခဲ့ပြီး ပြည်သူများကို အစုလိုက်အပြုံလိုက် သတ်ဖြတ်ခဲ့သည်။

ထိုနည်းတူ ၁၉၆၇ စစ်ပွဲတွင်လည်း အထက်ဖော်ပြပါအချက်များကို ပေါ်လွင်ထင်ရှားစွာ မြင်နိုင်သည်။ အစ္စလာမ့်အတွေးအခေါ် ပညာရှင်ကြီး စိုင်ယဒ် အဗ္ဗုလ်ဟာစန်အလီ ဟာစနီနဒ်ဝီသခင်ကြီးသည် فاستخف قومه فأطاعوه တွင် ရေးသားသည်မှာ- ၁၉၆၇ စစ်ပွဲတွင် အရဗ်နှင့်အီဂျစ်စစ်တပ်တို့သည် အကြီးအကျယ် လှောင်ပြောင်ခြင်းခံခဲ့ရသည်။ အီဂျစ်စစ်တပ်သည် ဆိုင်းနိုင်း ကျွန်းဆွယ်ကို ဖြတ်ကျော်နေစဉ်အတွင်း အစ္စရေးလေယာဉ်တို့သည် အီဂျစ်နိုင်ငံအတွင်းသို့ ကျူးကျော်ဝင်ရောက်ပြီး အီဂျစ်လေတပ်အခြေစိုက်စခန်းများကို ဗုံးကြဲဖျက်စီးခဲ့သည်။ ဤကိစ္စတွင် အီဂျစ်စစ်တပ်သည် လေတပ်ကို တပ်လှန့်ထားရန်နှင့် မိမိလေတပ်အခြေစိုက်စခန်းများကို ကာကွယ်စောင့်ရှောက်ရန် အစီအစဉ် မပြုလုပ်ထားခြင်းအား မေးခွန်းထုတ်စရာဖြစ်နေသည်။ ထိုအဖြစ်အပျက်များသည် ဂျမားလ်အဗ်ဒွန်နာဆွေရ် ကျဆုံးခန်းကို ဖြစ်စေခဲ့သည်။

သို့သော် အံ့အားသင့်ဖွယ်ရာအချက်မှာ ထိုအီဂျစ်စစ်တပ်သည် ၁၉၇၃ တွင် အီဂျစ်နှင့်အစ္စရေးကိုပိုင်းခြားထားသည့် စူးအက်တူးမြောင်းအရှေ့ဘက်ရှိ (bar lev line) ကို ကျော်ဖြတ်ပြီး အစ္စရေးနိုင်ငံထဲအထိ ထိုးဖောက်ချီတက်နိုင်ခဲ့သည်။ ထိုအခါ အစ္စရေးသည် မိမိ၏အရှင်သခင် အမေရိကန်ကို အကူအညီတောင်းခံရတော့သည်။ ဤအရာသည် သမိုင်းဝင်အကြောင်း အရာတစ်ခုဖြစ်ခဲ့သည်။ ထိုအချိန် အစ္စရေးခေါင်းဆောင်များ၏ အခြေအနေ အဘယ်မျှဆိုးရွားနေသည်ကို အသင်ထိုသမိုင်းကို ဖတ်ပါကသိရလိမ့်မည်။ ၎င်းတို့သည် အမေရိကန်အား “ကျွန်ုပ်တို့အားကယ်ပါ၊ ကျွန်ုပ်တို့အစ္စရေးနိုင်ငံကြီး ပျက်စီးရပါတော့မည်”ဟု အသနားခံရသောဘဝသို့ ရောက်ခဲ့ရသည်။ အီဂျစ်စစ်တပ်

သည် အစ္စရေးနိုင်ငံအတွင်းပိုင်းသို့ ရောက်ရှိသွားသောအခါ အစ္စရေးနိုင်ငံ ဆက်လက် တည်တံ့ရေးအတွက် ကြီးကြီးမားမားစိုးရိမ်စရာဖြစ်လာခဲ့သည်။

ထို့ကြောင့် အစ္စရေး၏အရှင်သခင် အမေရိကန်သည် ဤအရေး၌ တိုက်ရိုက် ဝင်ရောက်စွက်ဖက်ကာ အီဂျစ်စစ်သားများရှိရာ ရှေ့တန်းသို့ မိမိ၏ စစ်တပ်ကို ပို့ဆောင်၍ အီဂျစ်၏ထိုးစစ်ကို ဟန့်တားခြင်းအားဖြင့် အစ္စရေးကို ကာကွယ်စောင့်ရှောက်ခဲ့သည်။ ထိုအီဂျစ်စစ်တပ်သည် ၁၉၆၇ ခုနှစ်စစ်ပွဲတွင် အရှုံးနှင့် ရင်ဆိုင်ခဲ့ရသော်လည်း စစ်ရှုံးသည့် ထိုစစ်တပ်သည် ရမသွန် ၁၀ ရက် စစ်ပွဲတွင် အလ္လာဟ်ဟို့အက္ကဗရ်ရွတ်ဆိုပြီး တိုက်ပွဲဝင်ခဲ့ရာ စူးအက်တူးမြောင်းကို ဖြတ်ကျော်ချီတက်နိုင်ခဲ့သည်။ အစ္စရေးတို့သည် မိမိတို့နိုင်ငံ ကာကွယ်ရေးအတွက် ခံတပ်တံတိုင်းများကို တည်ဆောက်ထားခဲ့သည်။ ထိုတံတိုင်းများသည် ရန်သူလုံးဝထိုးဖောက်၍မရသော ခံတပ်များ ဖြစ်သည်ဟု အစ္စရေးတို့ ကြွေးကြော်ခဲ့သော်လည်း အီဂျစ်စစ်တပ်သည် ထိုခံတပ်တံတိုင်းများကို ဖြတ်ကျော်ပြရုံသာမက အစ္စရေးနိုင်ငံ အတွင်းပိုင်းအထိပါ ထိုးဖောက်ဝင်ရောက်ပြခဲ့သည်။ အီဂျစ်စစ်တပ်အတွင်း အီမာန်၏စိတ်ဓာတ်များ နိုးကြွားလာသောအခါ ယခင်က အရှုံးပေးခဲ့ရသော ရန်သူတော်အစ္စရေးစစ်တပ်ကို ဒူးထောက်အရှုံးပေးစေသော အခြေအနေသို့ ရောက်စေခဲ့သည်။ ထို့နောက် အစ္စရေးသည် လက်ဘနွန်မှ ဟစ်ဇ်ဘွလ္လာဟ်အုပ်စုနှင့် စစ်ဖြစ်ခဲ့ပြီး ၂၀၀၉ တွင် ဂါဇာကမ်းမြောင်တွင် ဟမားစ်အုပ်စုနှင့် စစ်ဖြစ်ခဲ့ရာ မိမိတို့မနိုင်မခြင်း တိုက်ခိုက်မည်ဟု အစ္စရေးတို့ ကြွေးကြော်ခဲ့ကြသော်လည်း နောက်ဆုံးတွင် မအောင်မြင်ဘဲ အစ္စရေးစစ်တပ်သည် နောက်ဆုတ်ခဲ့ရသည်။

ဂါဇာကမ်းမြောင်ဒေသကို သိမ်းပိုက်နိုင်ရန် အကြိမ်ကြိမ် ထိုးစစ်ဆင်ခဲ့သော်လည်း သိမ်းပိုက်နိုင်ခဲ့ခြင်းမရှိဘဲ ထိုဒေသကို ယခုအထိ ပါလက်စတိုင်းတို့ကသာ ထိန်းချုပ်ထားသည်။ ထို့ကြောင့် အစ္စရေးတို့သည် ဂါဇာကမ်းမြောင်ဒေသကို အဘက်ဘက်မှပိတ်ဆို့ထားသည်။ ထို့ပြင် ဂါဇာကမ်းမြောင်ဒေသသို့ ရေသွယ်ယူခွင့်ပါ ပိတ်ပင်ထားသည်။ ထိုကဲ့သို့ အဘက်ဘက်မှ အတားအဆီးများနှင့် အခက်အခဲပေါင်းများစွာ ရင်ဆိုင်နေရသော်လည်း ပါလက်စတိုင်းတို့သည် အီမာန်၏အင်အားဖြင့် အစ္စရေးကို ယခုထက်တိုင်တွန်းလှန်တိုက်ခိုက်နိုင်လျက်ရှိနေခဲ့သည်။ ထို့ကြောင့် မှတ်သားထားရမည့်အချက်မှာ-အစ္စရေးသည် ဉာဏ်နီဉာဏ်နက်၊ ပရိယာယ်ကြောင့်သော်လည်းကောင်း၊ ခိုင်မာလှသော ၎င်း၏စစ်အင်အားကြောင့်သော်လည်းကောင်း ဖြိုဖျက်၍မရသည့် အင်အားတစ်ရပ်ဟု ထင်မြင်စရာရှိသော်လည်း အရဗ်တို့အတွင်း အီမာန်နှင့်စိတ်ဓာတ်အင်အားများ အားကောင်းလာသည့်တစ်နေ့တွင် ၎င်းသည်ကမ္ဘာ့မြေပုံပေါ်မှ ပျောက်ကွယ်သွားမည်ဖြစ်သည်။ အင်ရှာအလ္လာဟ်။ ထိုအခါ၎င်းကို မည်သည့်နိုင်ငံကမျှ ကယ်တင်ပေးနိုင်လိမ့်မည် မဟုတ်ပေ။

အီဂျစ်တစ်နိုင်ငံတည်း အစ္စရေးကိုတိုက်ပြီး အောင်ပွဲဆင်နိုင်ခဲ့သလိုလက်ဘနွန်ရှိ သေးငယ်သော ဟစ်ဖ်ဘွလ္လာဟ်အုပ်စုလေး၏ရှေ့တွင် အစ္စရေးတို့ ဒူးထောက်အရှုံးပေးခဲ့ရသည်။ ထို့ပြင် အစ္စရေး၏ ကျည်ဆန်များကြားရှင်သန်နေရသော ပါလက်စတိုင်း လူငယ်လေးများသည်ပင် အစ္စရေးကို ဒုက္ခလှလှကြီး ပေးနိုင်ကြသည်ဆိုလျှင် အစ္စရေးကို ဝိုင်းထားသော အရဗ်လေးငါးနိုင်ငံတို့သည် အစ္စရေးကို ကမ္ဘာ့မြေပေါ်မှ ပျောက်ကွယ်သွားအောင် အလွယ်တကူပင်လုပ်နိုင်ပေလိမ့်မည်။

အစ္စရေးခေါင်းဆောင်တစ်ယောက်က---

**"ကျွန်ုပ်တို့သည် အဏုမြူဗုံးကိုမကြောက်၊ မွတ်စ်လင်မ်တို့၏ အီမာန်အင်အားကိုသာကြောက်သည်။ အထူးသဖြင့် မွတ်စ်လင်မ်ညီနောင်များ အဖွဲ့၏ မိုဂျာဟစ်ဒ်စစ်သည်တော်များကိုသာ ကြောက်ရသည်"**

ဟု မကြာသေးမီက ထုတ်ဖော်ပြောဆိုခဲ့သည်။ ၎င်းတို့အခွင့်အရေး ရလာလျှင် ကျွန်ုပ်တို့အတွက် အန္တရာယ်ဖြစ်မည်၊ ကျွန်ုပ်တို့အတွက် အန္တရာယ်အစစ်အမှန်သည် အဏုမြူဗုံးမဟုတ်၊ စစ်အင်အားမဟုတ်၊အီမာန်၏ အင်အားသာဖြစ်သည်ဟု ၎င်းကဝန်ခံခဲ့သည်။



**အက်ဆွာဗလီနေရာတွင် တည်ဆောက်မည်ဟု ရဟူဒီတို့ကြွေးကြော်သော ၎င်းတို့၏ ဘုရားကျောင်းပုံစံ**



**၁၉၆၉၊ ဩဂုတ်လ ၂၁ နေ့၊ အက်ဆွာဗလီကြီးအား ရဟူဒီတို့ မီးတင်ရှို့မှုမြင်ကွင်း**



**အက်ဆွာဗလီ၏အောက်ခြေကိုရဟူဒီတို့ တူးဖော်ထားပုံ**



အက်ဆွာဗလီ၏အောက်ခြေကိုရဟူဒီတို့တူးဖော်ထားပုံ



အက်ဆွာဗလီပြိုကျသွားစေရန် ရဟူဒီတို့ မြေအောက်မှတူးဖော်နေပုံကို
အရပ်ကာတွန်းဆရာတစ်ဦးက သရုပ်ဖော်ရေးဆွဲထားပုံ



**အက်ဆွာဗလီ ပရဝဏ်အနီး ရှေးဟောင်းသုတေသနပြုရန် အမည်တပ်ကာ ရဟူဒီတို့ တူးဖော်နေပုံ**

**နောက်ဆုံးရလဒ်ကောင်းသည် မှန်ကန်သောသူများ အတွက်သာဖြစ်လိမ့်မည်။**

အစ္စလာမ့်အတွေးအခေါ်ပညာရှင်ကြီး စိုင်ယဒ် အဗုလ်ဟာစန် အလီ ဟာစနီ နဒ်ဝီသခင်က ဤသို့ ရေးသားဖော်ပြခဲ့သည်။

**"အင်ရှာအလ္လာဟ် လွှမ်းမိုးမှုနှင့်အောင်မြင်မှုသည် ဖြောင့်မတ်မှန်ကန်သောသူများနှင့် လူသားထုတစ်ရပ်လုံးအတွက် ထာဝရအောင်မြင်မှု၏ သတင်းစကားကို သယ်ဆောင်လာသော သာသနာအတွက်သာ ဖြစ်မည်။ ၎င်း၏ကရုဏာသည် လူသားတစ်ရပ်လုံးအတွက် သက်ဆိုင်သည်။ ထို့ပြင် ၎င်း၏အမြင်တွင် အဖန်ဆင်းခံ အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ မိသားစုဝင်များ ဖြစ်ကြသည်။ ၎င်းသည် အမှန်တရားအတွက် နေရာတိုင်းတွင် ရင်မြေကတုတ်လုပ်ကာ နေရာစုံ အရောင်အသွေးစုံရှိသော မတရားမှုကို တွန်းလှန်လျက်ရှိသည်။ လူသားမျိုးနွယ်ကို အကျိုးပြုရန် ၎င်းသည် ရှင်သန်နေပြီး လူသားမျိုးနွယ်နှင့်သာ ဆက်စပ်ပတ်သက်လျက်ရှိသည်။ ၎င်း၏ အစွန်းအစသည်ပင် ပျက်လို ပျက်စီးမှုများမှ ကင်းလွတ်ပြီး ၎င်းသည် ကမ္ဘာကြီးတွင် အမှန်တရားနှင့် တရားမျှတမှုအတွက် ရှေ့ဆောင်လမ်းပြဖြစ်သည်။"**



## စာရေးသူ၏ကိုယ်ရေးအကျဉ်း

ခရစ်နှစ် ၁၉၃၃၊ဟစ်ဂျ်ရီ၁၃၅၂ ခုနှစ်တွင် မောင်လာနာ ဝါသွေ့ဟ်ရရှီးဒ် ဟစနီ နဒ်ဝီကို အိန္ဒိယနိုင်ငံ၊ ယူပီပြည်နယ်၊ ရိုင်ဘရီလီမြို့နယ်ရှိ သက္ကီယဟ်ကလာန် ရွာတွင် ဖွားမြင်ခဲ့သည်။ ဒါရုလ်အိုလူးမ် နဒ်ဝသွလ်အိုလမာ ကျောင်းတော်ကြီးတွင် ပညာ သင်ယူခဲ့ပြီး အာလင်မ်ဘွဲ့ရရှိခဲ့သည်။၎င်းနောက် အလီဂရ်မွတ်စ်လင်မ်တက္ကသိုလ်တွင် အင်္ဂလိပ်စာပေ၌ B.A နှင့် M.A ဘွဲ့ရခဲ့သည်။ ဘွဲ့ရပြီးနောက် ၁၉၅၃ မှ ၁၉၇၃ အထိ ALL INDIA ရေဒီယိုအစီအစဉ်၌ အရဗီဌာန၏ ဘာသာပြန်မှူးနှင့် သတင်းကြေညာသူ အဖြစ် လုပ်ကိုင်ခဲ့သည်။

၎င်းနောက် မိခင်ကျောင်းတော်ကြီးဖြစ်သော နဒ်ဝါကျောင်းတော်ကြီးသို့ ပြန်လည် ရောက်ရှိလာပြီး အရဗီစာပေသင်ကြားရေး ဆရာအဖြစ် ခန့်အပ်ခြင်းခံရသည်။ ပြီးနောက် နဒ်ဝါကျောင်းတော်ကြီးရှိ အရဗီဘာသာစကားနှင့် အရဗီစာပေဌာန၏ အကြီးအကဲဖြစ်ခဲ့သည်။ ကျောင်းတော်ကြီး၏ ပညာရေးမှူးဖြစ်သော မောင်လာနာ အဗ်ဒွလ္လာဟ် အဗ္ဗားစ် နဒ်ဝီ ကွယ်လွန်သောအခါ မောင်လာနာ ဝါသွေ့ဟ်ရရှီးဒ်ဆပ် သည် ကျောင်းကြီး၏ ပညာရေးမှူးဖြစ်လာခဲ့သည်။ ထို့အတူ ဆရာကြီးသည် ရိုင်ဘရီလီမြို့ရှိ မဒ်ရစဟ် ဖလားဟ်ဟွလ်မွတ်စ်လေမီးန် ကျောင်းတော်၏ နာယက ဆရာတော်ကြီးဖြစ်ပြီး ဒါရေ့အရဖားသ် ISLAMIC CENTER ၏ဒုတိယဥက္ကဌဖြစ်သည်။ နဒ်ဝါကျောင်းတော်ကြီးမှ အရဗီဘာသာဖြင့် ထုတ်ဝေသော"AL-RAID"အရဗီစာစောင် ၏ ရာသက်ပန်နာယက ဖြစ်သည်။ သစောင်ဝုဖ်လမ်းစဉ်တွင် ဆရာကြီးသည် မိမိ၏ နောင်တော်ဖြစ်သော ဟဇရသ် မောင်လာနာ ရာဘေ့အ် ဟစနီ သခင်၏ ခလီဖဟ် ဖြစ်သည်။ ဆရာကြီးသည် အူရ်ဒူနှင့် အရဗီစာပေတို့တွင် မြောက်မြားလှစွာသော စာအုပ်စာပေများရေးသားပြုစုခဲ့သည်။ အရဗီစာပေတွင် ပြောင်မြောက် ထူးချွန် မှုကြောင့် အိန္ဒိယနိုင်ငံ သမ္မတမှ ချီးမြှင့်သော ဆုတံဆိပ်ကို ရရှိခဲ့သည်။ ဟစ်ဂျ်ရီ ၁၄၄၀၊ ဂျိုမဒလ်အူလာလ ၉ ရက်နေ့၊ ခရစ်သက္ကရာဇ် ၂၀၁၉၊ ဇန်နဝါရီလ ၁၆ ရက်နေ့၊ ဗုဒ္ဓဟူးနေ့တွင် ဆရာကြီးသည် အလ္လာဟ်အရှင်မြတ်အမိန့်ခံယူသွား တော်မူခဲ့သည်။